99

PERSPECTIVE
PERSPECTIVE 02

LOW RISE APARTMENTS

Fully Light Company



archetype

# 4.23 PROPOSAL-C

SUMMARIZED CHART

| | FUNCTION | | Building Plot | | GFA | | Footprint | | FAR | BCR | Max. H | Units |
|---|---|---|---|---|---|---|---|---|---|---|---|---|
| | Shopping center | | 36.169 m2 | 8.9 acres | 51.050 m2 | 549.498 ft2 | 19.359 m2 | 208.379 ft2 | 1.41 | 53.5% | 14.4m | |
| PARCEL 2 | Low rise apartment | | 14.506 m2 | 3.6 acres | 29.871 m2 | 321.529 ft2 | 6.471 m2 | 69.653 ft2 | 2.06 | 44.6% | 20.4m | 136units |
| PARCEL 3 | Low rise apartment | | 13.756 m2 | 3.4 acres | 25.508 m2 | 274.566 ft2 | 5.772 m2 | 62.129 ft2 | 1.85 | 42.0% | 20.4m | 130units |
| PARCEL 4 | Low rise apartment | | 23.017 m2 | 5.7 acres | 38.856 m2 | 418.243 ft2 | 9.246 m2 | 99.523 ft2 | 1.69 | 40.2% | 20.4m | 208units |
| PARCEL 5 | Low rise apartment | | 12.523 m2 | 3.1 acres | 23.127 m2 | 248.937 ft2 | 5.218 m2 | 56.134 ft2 | 1.85 | 41.6% | 20.4m | 127units |
| | | | 63,802 m2 | 15.8 acres | 117,362 m2 | 1.263.274 ft2 | 26,704 m2 | 287.439 ft2 | | | | 601units |
| PARCEL 6 | Shophouse | (27x40) | 33.948 m2 | 8.4 acres | 73.607 m2 | 792.295 ft2 | 16.828 m2 | 181.136 ft2 | 2.17 | 49.6% | 18m | 196units |
| PARCEL 7 | Semi detached Villa | (60x60) | 28.652 m2 | 7.1 acres | 28.000 m2 | 301.389 ft2 | 15.840 m2 | 170.500 ft2 | 0.98 | 55.3% | 8m | 80units |
| PARCEL 8 | 1st row urban villa | (50x60) | 31.381 m2 | 7.8 acres | 31.240 m2 | 336.265 ft2 | 15.840 m2 | 170.500 ft2 | 1.00 | 50.5% | 8m | 88units |
| PARCEL 9 | 2nd row urban villa | (60x80) | 50.223 m2 | 12.4 acres | 43.134 m2 | 464.291 ft2 | 23.387 m2 | 251.736 ft2 | 0.86 | 46.6% | 8m | 91units |
| PARCEL 10 | Urban Villa type 3 | (80x100) | 22.582 m2 | 5.6 acres | 17.336 m2 | 186.603 ft2 | 9.372 m2 | 100.879 ft2 | 0.77 | 41.5% | 8m | 22units |
| PARCEL 11 | Urban Villa type 4 | (80x80) | 24.963 m2 | 6.2 acres | 24.568 m2 | 264.448 ft2 | 13.764 m2 | 148.154 ft2 | 0.98 | 55.1% | 8m | 37units |
| PARCEL 12 | Golf Course View Villa | (100x100) | 58.807 m2 | 14.5 acres | 45.416 m2 | 488.854 ft2 | 24.584 m2 | 264.620 ft2 | 0.77 | 41.8% | 8m | 56units |
| PARCEL 13 | Luxury Hill Villa | (100x140) | 172.190 m2 | 42.5 acres | 105.800 m2 | 1.138.822 ft2 | 52.900 m2 | 569.411 ft2 | 0.61 | 30.7% | 8m | 115units |
| | | | 422,746 m2 | 104.5 acres | 369,101 m2 | 3.972.966 ft2 | 172,515 m2 | 1.856.936 ft2 | | | | 685units |
| PARCEL 14 | Community Center | | 5.030 m2 | 1.2 acres | 9.105 m2 | 98.005 ft2 | 2.040 m2 | 21.958 ft2 | 1.81 | 40.6% | 22m | |
| PARCEL 15 | 5 star Hotel | | 20.716 m2 | 5.1 acres | 23.700 m2 | 255.105 ft2 | 3.865 m2 | 41.603 ft2 | 1.14 | 18.7% | 40m | 300rooms |
| PARCEL 16 | 3 star Hotel | | 9.851 m2 | 2.4 acres | 13.963 m2 | 150.296 ft2 | 4.101 m2 | 44.143 ft2 | 1.42 | 41.6% | 21m | 100rooms |
| PARCEL 17 | School | | 24.895 m2 | 6.2 acres | 30.261 m2 | 325.727 ft2 | 6.420 m2 | 69.104 ft2 | 1.22 | 25.8% | 16m | 1800students |
| PARCEL 18 | International Hospital | | 26.345 m2 | 6.5 acres | 31.000 m2 | 333.681 ft2 | 9.611 m2 | 103.452 ft2 | 1.18 | 36.5% | 21m | 300beds |

| | | | | | |
|---|---|---|---|---|---|
| TOTAL | Project area | | 2,263,563 m2 | 559.3 | acres |
| | GOLF COURSE AREA | 54% | 1,219,154 m2 | 301.3 | acres |
| | Golf course area | 50.2% | 1.136.600 m2 | 280.9 | acres |
| | Maintenance | 0.9% | 20.467 m2 | 5.1 | acres |
| | Clubhouse area | 1.1% | 25.293 m2 | 6.3 | acres |
| | Driving range | 1.6% | 36.794 m2 | 9.1 | acres |
| | AMUSEMENT PARK | 5.1% | 115,239 m2 | 28.5 | acres |
| | BUILT AREA | 41.0% | 929,160 m2 | 229.6 | acres |
| | Plot use | | 609.564 m2 | 150.6 | acres |
| | Road, park | | 319.596 m2 | 79.0 | acres |




| Total GFA | | Footprint | | Density |
|---|---|---|---|---|
| 1.132.004m2 | 12.184.792 ft2 | 244.615m2 | 2.633.014 ft2 | 26.3% |

**မြို့တော်စည်ပင်နှင့် စာချုပ်ချုပ်ဆိုခြင်း**

၁၇။ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီသည် ၁၂.၃.၂၀၁၅ နေ့မှစ၍ ပုသိမ်ကြီး မြို့နယ်၊ ရေတံခွန်တောင်ဂေါက်ကွင်း အဆင့်မြင့်တိုးချဲ့တည်ဆောက်ရန်အတွက် တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်း စနစ်ဖြင့် နှစ်ရှည်ဆောင်ရွက်ရန် မန္တလေးနေ့စဉ်နှင့် ရတနာပုံသတင်း စာတို့မှ တင်ဒါခေါ်ယူခဲ့ပြီး လျှောက်လွှာများကို ၁၈.၃.၂၀၁၅ မှ ၁၀.၄.၂၀၁၅ အထိ ရောင်းချ ပေးခဲ့ပါသည်။ တင်ဒါတင်သွင်းလိုသူများအနေဖြင့် ဆောင်ရွက်မည့် စီမံကိန်းဆိုင်ရာ အချက် အလက်များနှင့်အတူ ၂၃.၄.၂၀၁၅ ရက်နေ့ ၁၃:၀၀ အချိန် နောက်ဆုံးထားပေးပို့ရန် ကြေညာခဲ့ ပါသည်။ ဖွံ့ဖြိုးသစ်ကုမ္ပဏီသည် သတ်မှတ်ထားသည့် နေ့ရက်အချိန်တွင် အခြားကုမ္ပဏီ (၅) ခု နှင့်အတူ တင်ဒါတင်သွင်းခဲ့ပါသည်။

၁၈။ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီမှ ၂၂.၆.၂၀၁၅ နေ့တွင် ဖွံ့ဖြိုးသစ်ကုမ္ပဏီ အားရွေးချယ်ကြောင်း အကြောင်းကြားခဲ့ပြီး ၁၉.၈.၂၀၁၅ နေ့တွင် နားလည်မှုစာချွန်လွှာ (MOU) လက်မှတ်ရေးထိုးနိုင်ခဲ့ပါသည်။ ၂၂.၆.၂၀၁၅ နေ့တွင် မန္တလေးမြို့တော် စည်ပင်သာယာ ရေးကော်မတီ၏ ရက်စွဲပါစာအမှတ် (၁၀၄)/အကြံပေး(၂၀၁၅) ဖြင့် ဖွံ့ဖြိုးသစ် ကုမ္ပဏီနှင့် လက်မှတ်ရေးထိုးထားသော MOU စာချုပ်ကို ပြည်ထောင်စုရှေ့နေချုပ်ရုံး သို့အကြံဉာဏ် တောင်းခံခဲ့ပြီး ယင်းရှေ့နေချုပ်ရုံး၏ ၂၉.၇.၂၀၁၅ ရက်စွဲပါစာအမှတ် ၂(၅)၉-၃၈/နပတ(၇၃၈) ဖြင့် ပြန်ကြားထားသော အကြံပြုချက်နှင့်အညီ နှစ်ဦးနှစ်ဖက်ညှိနှိုင်းစာချုပ် ချုပ်ဆိုခဲ့ပါသည်။

၁၉။ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီသည် ဖွံ့ဖြိုးသစ်ကုမ္ပဏီနှင့် စီမံကိန်းအား နှစ်ဦးနှစ်ဖက် သဘောတူစာချုပ်ချုပ်ဆိုနိုင်ရန် စာချုပ် (မူကြမ်း) အား ၂၆.၁.၂၀၁၆ ရက်စွဲပါ စာအမှတ် ၁၀၀၁/၇/ပန်းကစား(၀၁၇၆) ဖြင့် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ အကြံပြုချက် တောင်းခံခဲ့ရာ ရှေ့နေချုပ်ရုံး၏ ၄.၂.၂၀၁၆ ရက်စွဲပါစာအမှတ် ၂(၅)၄-၁၄/နပတ(၁၁၃) ဖြင့် ပြန်ကြားထားသော အကြံပြုချက်ပါအတိုင်း နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး ၁၁.၂.၂၀၁၆ ရက်နေ့တွင် လုပ်ငန်းသဘောတူစာချုပ်ချုပ်ဆိုခဲ့ပါသည်။

**သဘာဝနှင့် လူမှုပတ်ဝန်းကျင် လေ့လာဆန်းစစ်ချက်**

**Environmental and Social Impact Assessment Report (ESIA)**

၂၀။ ၂၄.၈.၂၀၁၅ ရက်နေ့တွင် ဖွံ့ဖြိုးသစ် ကုမ္ပဏီသည် စီမံကိန်းအကောင်အထည်ဖော် ဆောင်ရွက်ပါက ရေတံခွန်တောင်ဂေါက်ကွင်းဒေသနှင့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ချက် (Environment Impact Assessment – EIA) နှင့် လူမှုပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက် (Social Impact Assessment – SIA) လုပ်ငန်းများကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေနှင့် အညီ လေ့လာဆန်းစစ်နိုင်ရန်အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီး ဌာနမှ အသိအမှတ်ပြု OSHE Services Co., Ltd အား လုပ်ငန်းအပ်နှံခြင်း သဘောတူစာချုပ် ချုပ်ဆိုပြီး ဖြစ်ပါသည်။ OSHE ကုမ္ပဏီအနေဖြင့်လည်း ကျွမ်းကျင်သူပညာရှင်များဖြင့်

ရေတံခွန်တောင်ဂေါက်ကွင်းနှင့် ပတ်ဝန်းကျင်ဒေသအတွင်း ဆန်းစစ်ဖော်ထုတ်လျှက်ရှိပြီး ESIA ၏လုပ်ငန်းစဉ်တစ်ခုဖြစ်သော အနီးပတ်ဝန်းကျင်ဒေသဖြစ်သော ပုသိမ်ကြီးမြို့နယ်၊ ရေကြည်၊ ရွေးစု၊ အိုင်ကြီး၊ သရက်တောကျေးရွာအုပ်စုများမှ လူထုတွေ့ဆုံဆွေးနွေးပွဲ (Public Meeting) ကို ၈.၁၂.၂၀၁၅ ရက်နေ့တွင် ရေတံခွန်တောင်ဂေါက်ကွင်း၌ ကျင်းပပြီးဖြစ်ပါသည်။






၂၁။ ဖွံ့ဖြိုးသစ်ကုမ္ပဏီသည် အဆိုပါဆန်းစစ်လေ့လာချက်အစီရင်ခံစာမှ တွေ့ရှိအကြံပြု သည့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan) နှင့်အညီ

လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါသည်။ ဖွံ့ဖြိုးသစ်ကုမ္ပဏီသည် ရေတံခွန်တောင် ဂေါက်ကွင်းနှင့် ယင်းဒေသပတ်ဝန်းကျင်ရှိ သစ္စာဝေဒဂူစာသင်တိုက်၊ မုံလည်တောရကျောင်း၊ ရွှေနတ်တော်တောရကျောင်းနှင့် ရေကြည်ကျေးရွာ ညောင်ပင်ကျောင်းတိုက် သံဃာ့နာယက ဆရာတော် ဦးကောဝိဒကျောင်းမှ ဆရာတော်ကြီးများထံ ဖူးမျှော်ဩဝါဒခံယူခြင်း၊ ဝတ္ထုငွေ ကျပ်သိန်း (၂၀) ဆက်ကပ်လှူဒါန်းခြင်းတို့ကိုလည်းကောင်း၊ ရေကြည်ကျေးရွာအုပ်စု အမှတ် (၂၀) အလယ်တန်းကျောင်းသို့ ကျပ်သိန်း (၅၀) ခန့်တန်ဖိုးရှိ စာသင်ခုံ (၅၁) ခုံ လှူဒါန်းခြင်း၊ ကျေးရွာလူမှုရေးအသင်းသို့ လစဉ်စက်သုံးဆီများ ထောက်ပံ့ခြင်းတို့အပြင် ရေတံခွန်တောင် ဂေါက်ကွင်းဝန်ထမ်းများ၏ သက်သာချောင်ချိရေးအတွက် ငွေစုငွေချေးအသင်းအဖွဲ့ ထူထောင်ခြင်း၊ ကျန်းမာရေးအတွက် ထောက်ပံ့ခြင်း၊ သရက်တောရွာ စုပေါင်းကထိန်သို့ တန်ဖိုးငွေ (၁၅) သိန်းခန့် ပါဝင်လှူဒါန်းခြင်းတို့ကို လူမှုတာဝန်ဆောင်ရွက်မှုလုပ်ငန်း (Coporate Social Responsibility (CSR) အတွက် တန်းဖိုးငွေကျပ်သိန်း (၅၀) ခန့် သုံးစွဲထားပြီး ဖြစ်ပါသည်။ ဖွံ့ဖြိုးသစ်ကုမ္ပဏီသည် စီမံကိန်းနှင့်ဆက်စပ်လျှက်ရှိသော ရေကြည်၊ ရွှေးစု၊ အုံကြီး၊ သရက်တော စသည့်ကျေးရွာများရှိ လုပ်သားပြည်သူများနှင့် ဂေါက်ကွင်းဝန်ထမ်းများ၏ CSR လုပ်ငန်း အတွက် ငွေကျပ်သိန်း (၂၀၀၀) ခန့် အရင်းပျောက် ရန်ပုံငွေထားရှိသုံးစွဲရန် စုဆောင်းထားခြင်း၊ ကျေးလက်ကျန်းမာရေးဆေးခန်း ထူထောင်ခြင်းနှင့် သန့်ရှင်းသော ရေပေးဝေရေးလုပ်ငန်းများ ထောက်ပံ့ပေးရန်၊ လမ်းပန်းဆက်သွယ်မှု ကောင်းမွန်ရေးနှင့် ကယ်ရီဝန်ထမ်းနေအိမ်များ တည်ဆောက်ပေးရန် စီစဉ်ထားရှိပြီး ဖြစ်ပါသည်။



# 1.1 SITE ANALYSIS
NEW PROPOSED ROAD TO THE SITE




# 1.1 SITE ANALYSIS
NEW PROPOSED ROAD TO THE SITE


















**စီမံကိန်း၏ အလုပ်အကိုင်အခွင့်အလမ်းများ**

၂၂။ ဖွံ့ဖြိုးသစ်ကုမ္ပဏီသည် နိုင်ငံတကာအဆင့်မီ ရေတံခွန်တောင်ဂေါက်ကွင်း၊ Club House၊ အပန်းဖြေအားကစားဥယျာဉ်၊စီးပွားရေးနှင့်လူနေအဆောက်အအုံများစီမံကိန်း အကောင်အထည်ဖော်တည်ဆောက်ရာတွင် ဒေသတွင်းလုပ်သားပြည်သူများ၏ အလုပ်အကိုင် အခွင့်အလမ်းများ များပြားစွာပေါ်ထွက်လာသည်နှင့်အညီ ၎င်းတို့၏ လူမှုစီးပွားဘဝတိုးတက် လာမည့်စီမံကိန်းဖြစ်ပါသည်။ ဖွံ့ဖြိုးသစ် ကုမ္ပဏီသည် စာချုပ်ပါစည်းကမ်းအရ လက်ရှိဂေါက်ကွင်း ဝန်ထမ်းများ ဆက်လက်ခန့်ထားရေး၊ ဝန်ထမ်းအိမ်ရာရရှိရေးနှင့် ဂေါက်သီးအားကစားစဉ်ဆက် မပြတ်ကစားခွင့်ရရှိနိုင်ရန်အတွက် စီစဉ်ထားရန် နားလည်မှု စာချွန်လွှာ (MOU) လက်မှတ်ရေးထိုးထားပြီး ၁.၉.၂၀၁၅ ရက်နေ့မှစ၍ လက်ရှိဝန်ထမ်း (၁၇၇) ယောက်နှင့် ကယ်ရီ (၂၈၀) ဦးတို့ကို တာဝန်ယူဆက်လက်ခန့်ထားပေးပြီး ဂေါက်ကွင်းလုပ်ငန်း လည်ပတ်လျှက်ရှိပါသည်။ ဖွံ့ဖြိုးသစ်ကုမ္ပဏီအနေဖြင့် စီမံကိန်းအတွက်လိုအပ်သော အတတ်ပညာရှင်နှင့် ဝန်ထမ်းများခန့်ထားရာတွင် ဝန်ထမ်းမိသားစုနှင့် ဒေသတွင်းလုပ်သားပြည်သူများ၏ မိသားစုဝင်များကို ဦးစားပေးရွေးချယ် ခန့်ထားခဲ့ရာ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလကုန်အထိ ဝန်ထမ်း (၂၅၃) ဦးနှင့် လက်ရှိကယ်ရီ (၃၅၀) ဦး အလုပ်အကိုင်အခွင့်အလမ်း ရရှိခဲ့ပါသည်။

၂၃။ ဖွံ့ဖြိုးသစ်ကုမ္ပဏီမှ အကောင်အထည်ဖော် ဆောင်ရွက်လျှက်ရှိသော စီမံကိန်းတွင် နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်း (၁) ခု၊ အပန်းဖြေအားကစားဥယျာဉ်၊ ဟော်တယ် (၂) လုံး၊ ဆေးရုံ (၁) ခု၊ စာသင်ကျောင်း (၁) ကျောင်းအပြင် စီးပွားရေးအဆောက်အအုံနှင့် လူနေအိမ်

လုပ်ငန်းများ ပါရှိသဖြင့် အလုပ်အကိုင်အခွင့်အလမ်းများ များစွာပေါ်ထွန်းလာမည် ဖြစ်ပါသည်။ သက်ဆိုင်ရာလုပ်ငန်းအလိုက် ပညာရှင်များ၏တွက်ချက်မှုအရ လုပ်ငန်းအလိုက် အရာထမ်း (၂၀၀) ကျော်၊ နိုင်ငံတကာအဆင့်မှီ ဂေါက်ကွင်းအတွက် ဝန်ထမ်း (၃၀၀) ခန့်၊ ကယ်ရီ (၄၀၀) ခန့်၊ အပန်းဖြေအားကစားဥယျာဉ်အတွက် ဝန်ထမ်း (၁၀၀) ခန့်၊ ဟော်တယ်လုပ်ငန်းအတွက် ဝန်ထမ်း (၅၀၀) ခန့်၊ ဆေးရုံအတွက် ဝန်ထမ်း (၂၀၀) ခန့်၊ ကျောင်းအတွက် ဝန်ထမ်း (၁၀၀) ခန့်၊ စီးပွားရေးအဆောက်အအုံများအတွက် ဝန်ထမ်း (၁၀၀) ခန့်၊ လူနေအဆောက်အအုံများ အတွက် ဝန်ထမ်း (၁၀၀) ခန့် စုစုပေါင်းဝန်ထမ်း (၂၀၀၀) ပေါ်ထွက်လာနိုင်ပြီး တည်ဆောက်ရေးလုပ်ငန်းအတွက် လုပ်သား (၂၀၀၀) ခန့် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိနိုင်မည်ဟု မျှော်မှန်း သုံးသပ်ထားပါသည်။

<u>လျှပ်စစ်မီးနှင့် သောက်သုံးရေ ဖူလုံစွာရရှိရေး</u>

၂၄။ ဖွံ့ဖြိုးသစ်ကုမ္ပဏီမှ တည်ဆောက်မည့်စီမံကိန်းအတွက် လျှပ်စစ်မီးရရှိရေးအတွက် မြန်မာ့လျှပ်စစ်လုပ်ငန်းနှင့် ဆက်သွယ်ဆောင်ရွက်မည် ဖြစ်ပါသည်။ ကျွမ်းကျင်သူ ပညာရှင်များ၏ တွက်ချက်မှုအရ Developer အဆင့်အတွက် (၁) နှစ်လျှင် လျှပ်စစ် 430 MW လိုအပ်ပြီး စီမံကိန်း (၁) ခုလုံးအတွက် 1277 MW သုံးစွဲရမည် ဖြစ်ပါသည်။ စီမံကိန်းအတွက် အရေးပေါ် အသုံးပြုနိုင်ရန် ဒီဇယ်အင်ဂျင်မီးစက် စီစဉ်ထားရှိပြီး မြင်းကောင်ရေ 2144 HP ရှိ ဒီဇယ်အင်ဂျင်သုံး 2000 KVA ဂျင်နရေတာ (၆) လုံး ထားရှိမည် ဖြစ်ပါသည်။

၂၅။ ရေတံခွန်တောင်ဂေါက်ကွင်းတည်နေရာမှာ ဆည်တော်ကြီးရေလှောင်တမံ၏ပင်မလက်တံမြောင်းဘေး ပေ (၁၅၀) အကွာ၌ တည်ရှိသဖြင့် လိုအပ်သည့် သောက်သုံးရေအတွက် ရေသန့်စင်စက်ရုံဖြင့် သန့်စင်ပြီး သုံးစွဲရန် လျာထားပါသည်။ သို့ရာတွင် ဆည်တော်ကြီးရေမှာ တောင်သူလယ်သမားများ၏ စိုက်ပျိုးရေးအတွက် အဓိကသုံးစွဲရန်ဖြစ်သဖြင့် စိုက်ပျိုးရေသုံးစွဲမှုမရှိချိန်နှင့် ဆည်ရေနည်းပါးချိန်တွင် သောက်သုံးရေအခက်အခဲမရှိစေရန် စီမံကိန်းဒေသမှ (၉) မိုင်ခန့်ရှိ ဒုဋ္ဌဝတီမြစ်မှ ရေသွယ်တန်းရယူသန့်စင်ပြီး သုံးစွဲရန် စီစဉ်ထားပါသည်။ စီမံကိန်းတစ်ခုလုံး အတွက် သောက်သုံးရေလိုအပ်ချက်ဖြစ်သော (၁) ရက် ဂါလံ (၃) သန်းဖြစ်ရန် (၁) နှစ်လုံး ဂါလံ (၁၀၉၅) သန်း လိုအပ်ပါသည်။





**နိဂုံး**

၂၆။ ဖွံ့ဖြိုးသစ်ကုမ္ပဏီသည် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ လမ်းညွှန်ချက်၊ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ကြီးကြပ်မှုဖြင့် ကုမ္ပဏီ၏ ရည်မှန်းချက်များ ဖြစ်သော ရေတံခွန်တောင် ဂေါက်ကွင်းအား နိုင်ငံတကာအဆင့်မှီ ဖွံ့ဖြိုးတိုးတက်ရေးတည်ဆောက်ရန်၊ ရေတံခွန်တောင်ဂေါက်ကွင်းအနီး ပတ်ဝန်းကျင်ဒေသရှိ ပြည်သူလူထုများ အလုပ်အကိုင်အခွင့်အလမ်းများရရှိစေရေးနှင့် လူမှုစီးပွားရေးဘဝဖွံ့ဖြိုးတိုးတက်ရေး၊ ရေတံခွန်တောင်ဂေါက်ကွင်း

နှင့် ဆက်စပ် လျှက်ရှိသောဒေသများ၏သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စိမ်းလန်းစိုပြေရေးကို စီမံကိန်းချမှတ် စနစ်တကျဆောင်ရွက်ရန်၊ ရေတံခွန်တောင်ဂေါက်ကွင်း အစဉ်အမြဲဖွံ့ဖြိုးတိုးတက်မှု အစဉ်အလာကို ရေရှည်တည်တံ့ခိုင်မြဲရေး ထိန်းသိမ်းကြိုးပမ်းဆောင်ရွက်ရန်၊ ရေတံခွန်တောင်တွင် နိုင်ငံတကာအဆင့်မှီဂေါက်ကွင်း၊ Club House၊ အပန်းဖြေ အားကစားဥယျာဉ်၊ စီးပွားရေး နှင့်လူနေအဆောက်အအုံတည်ဆောက်ရေးစီမံကိန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရန် စသည့်အချက်များနှင့်အညီ တည်ဆောက်ရေးစီမံကိန်း အား အောင်မြင်အောင် အကောင်အထည်ဖော် တည်ဆောက်သွားမည်ဖြစ်ကြောင်း ပူးတွဲပါစာရွက်စာတမ်းမိတ္တူများနှင့်အတူ တင်ပြအပ်ပါသည်။

**ဖွံ့ဖြိုးသစ် ကုမ္ပဏီလီမိတက်**

# ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်

## မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ

နှင့်

## ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်

တို့အကြားချုပ်ဆိုသော

## နိုင်ငံတကာအဆင့်မှီ ရေတံခွန်တောင်ဂေါက်ကွင်း၊

## Club House ၊ အပန်းဖြေအားကစားဥယျာဉ်၊ စီးပွားရေးနှင့်

## လူနေအဆောက်အအုံများ တည်ဆောက်ရေး စီမံကိန်း

## သဘောတူစာချုပ်

စာချုပ်အမှတ်စဉ် - ( ၁၄ / ၂၀၁၆ )

၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ၊ ၁၁ ရက် မန္တလေးမြို့

# မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီနှင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက် တို့အကြား ချုပ်ဆိုသော နိုင်ငံတကာအဆင့်မီ ရေတံခွန်တောင်ဂေါက်ကွင်း၊ Club House၊ အပန်းဖြေ အားကစားဥယျာဉ်၊ စီပွားရေးနှင့် လူနေ အဆောက်အအုံများ တည်ဆောက်ရေး စီမံကိန်း သဘောတူစာချုပ်

## မာတိကာ




## မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် ဖွံ့ဖြိုးသစ် ကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုသော နိုင်ငံတကာအဆင့်မီ ရေတံခွန်တောင်ဂေါက်ကွင်း၊ စီးပွားရေးနှင့် လူနေအဆောက်အအုံတည်ဆောက်ရေး စီမံကိန်း သဘောတူစာချုပ်

**စာချုပ်ချုပ်ဆိုသူများ**

ပြည်ထောင်စုမြန်မာနိုင်ငံတော် မန္တလေးမြို့၌ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ရက်နေ့တွင် **ဦးသက်နိုင်ထွန်း၊ တွဲဖက်အတွင်းရေးမှူး၊ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီ ကိုယ်စားပြုသော မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ** (နောင်တွင် အခြားကွဲပြားသော အဓိပ္ပါယ်ဖော်ပြချက်မရှိလျှင် "မန်းစည်ပင်" ဟု ရည်ညွှန်းမည်ဖြစ်ပြီး ယင်းစကား ရပ်တွင် ယင်း၏ဆက်ခံသူများ၊ ဥပဒေအရလွှဲအပ်ခြင်းခံရသူများလည်း အကျုံးဝင်သည်ဟု မှတ်ယူရမည်) ကတစ်ဖက်

နှင့်

**ဦးမောင်မောင်၊ ၁၃/လရန(နိုင်)၀၉၀၆၁၀၊ အုပ်ချုပ်မှုဒါရိုက်တာ၊ ဖွံ့ဖြိုးသစ်ကုမ္ပဏီ လီမိတက် ကိုယ်စားပြုသော မြန်မာနိုင်ငံကုမ္ပဏီအက်ဥပဒေအရဖွဲ့စည်းထားသည့်အမှတ်(ခ-၄၀၁)၊ ဗားဂရာလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့ရှိ ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်** (နောင်တွင် အခြားကွဲပြားသောအဓိပ္ပာယ်ဖော်ပြချက်မရှိလျှင် "ဖွံ့ဖြိုးသစ်" ဟုရည်ညွှန်းမည်ဖြစ်ပြီး ယင်း စကားရပ်တွင် ယင်း၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေအရလွှဲအပ်ခြင်းခံရ သူများလည်းအကျုံးဝင်သည်ဟုမှတ်ယူရမည်) က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်း ချက်များနှင့်အညီ ဤစာချုပ်ကို လက်မှတ်ရေးထိုးပြီး ချုပ်ဆိုကြပါသည်။

ယင်းသို့ချုပ်ဆိုကြရာတွင် ယခုစာချုပ်ပါကိစ္စရပ်များနှင့်စပ်လျဉ်း၍ (၁၉-၈-၂၀၁၅) ရက် နေ့တွင် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက် (စာချုပ် ဝင်နှစ်ဖက်) အကြား နားလည်မှုစာချွန်လွှာလက်မှတ်ရေးထိုး ချုပ်ဆိုထားခြင်းကိုပါ ဤစာချုပ် တွင်အပါအဝင်အဖြစ် နှစ်ဖက်သဘောတူချုပ်ဆိုကြပါသည်။

**အပိုဒ် ၁ အာမခံခြင်း နှင့် ကိုယ်စားပြုခြင်း**

၁-၀၁။ "မန်းစည်ပင်" သည် ၁၉၉၇-၉၈ ခုနှစ်မှစ၍မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့ နယ်၊ ရေကြည်အရှေ့ ကွင်းအမှတ် (၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ် (၅၄၉)၊ ချောင်းကြီးဝအရှေ့ (အိုင်ကြီး) ကွင်းအမှတ် (၅၅၀-က) ရှိမြေ (၅၄၇.၈၀) ဧကကို လက်ရောက်ရယူ၍ ယင်းမြေပေါ်တွင် ရေတံခွန်တောင်ဂေါက်ကွင်းလုပ် ငန်း၊ ဂေါက်သီးရိုက်လေ့ကျင့်ရေးကွင်း လက်ရှိလုပ်ကိုင်လျှက်ရှိပြီး "မန်းစည်ပင်" မှ စီမံခန့်ခွဲပိုင် ခွင့်ရှိသော မြေဖြစ်ကြောင်း တာဝန်ယူပါသည်။ "ဖွံ့ဖြိုးသစ်" သည် ဤစာချုပ် ပါလုပ်ငန်းကို လုပ်ကိုင်ရန် ငွေကြေးအင်အားပြည့်စုံသူ ဖြစ်ပါသည်။ ဤစာချုပ်ကို လက်မှတ်ရေးထိုးမည့်သူများသည် လက်မှတ်ရေးထိုးရန် အခွင့် အာဏာရှိသူ များဖြစ်ကြောင်း အာမခံကြပါသည်။

အပိုဒ် ၂ **စာချုပ်၏ ရည်ရွယ်ချက်**

၂-၀၁။ "ဖွံ့ဖြိုးသစ်" သည် "မန်းစည်ပင်" စီမံခန့်ခွဲပိုင်ခွင့်ရှိသော အပိုဒ် ၁-၀၁ ပါ မြေ (၅၄၇.၈၀) ကေအနက်၊ လက်ရှိအသုံးပြုလျှက်ရှိသော ဂေါက်ကွင်းမြေ (၃၀၂)ကေတွင် နောက်ဆက်တွဲ (ဂ) ဖြင့် ဖော်ပြထားသော Master Plan ပါ နိုင်ငံတကာအဆင့်မှီဂေါက်ကွင်း အသစ်ဖောက်လုပ်ခြင်း၊ Club House ဆောက်လုပ်ခြင်းလုပ်ငန်းများကိုလည်း ကောင်း၊ မြေ (၂၈) ကေတွင် အပန်းဖြေအားကစားဥယျာဉ်တည်ဆောက်ခြင်းလုပ်ငန်းကိုလည်းကောင်း အကောင်အထည်ဖော် တည်ဆောက်နိုင်ရန်အတွက် စုစုပေါင်းမြေ (၃၃၀) ကေအားငှားရမ်း၍ တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်း စာချုပ်ချုပ်ဆိုပြီး ဆောင်ရွက်ရန်၊

၂-၀၂။ "မန်းစည်ပင်" မှ စီမံခန့်ခွဲပိုင်ခွင့်ရှိသော ကျန်မြေ (၂၁၇.၈၀) ကေပေါ်တွင် "ဖွံ့ဖြိုးသစ်" မှ နောက်ဆက်တွဲ (ဂ) ဖြင့်ဖော်ပြထားသော Master Plan ပါ စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်းကို လုပ်ကိုင်နိုင်ရန်အတွက် နှစ်ဦးနှစ်ဖက်ညှိနှိုင်းသဘောတူညီချက်ဖြင့် "ဖွံ့ဖြိုးသစ်" သို့ အပြီးအပိုင်လွှဲပြောင်းပေးရန်၊

အပိုဒ် ၃ **အငှားချထားမည့် ပစ္စည်းနှင့် လွှဲပြောင်းပေးရမည့် ပစ္စည်း**

၃-၀၁။ "ဖွံ့ဖြိုးသစ်" သည် နိုင်ငံတကာအဆင့်မှီဂေါက်ကွင်း ဖောက်လုပ်ခြင်းလုပ်ငန်း၊ Club House ဆောက်လုပ်ခြင်းလုပ်ငန်း၊ အပန်းဖြေအားကစားဥယျာဉ်လုပ်ငန်းများကို အသစ်တည်ဆောက်ပြီး တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်း စာချုပ်စနစ်ဖြင့်ဆောင်ရွက်နိုင်ရန်အတွက် "မန်းစည်ပင်" မှ စီမံခန့်ခွဲပိုင်ခွင့်ရှိသော အပိုဒ် ၂-၀၁ ပါ မြေ (၃၃၀) ကေနှင့် ယင်းမြေပေါ်ရှိ ရွှေ့ပြောင်းနိုင်သောပစ္စည်း၊ မရွှေ့ပြောင်းနိုင်သောပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများကို အငှားချထားပေးရမည်။

၃-၀၂။ "ဖွံ့ဖြိုးသစ်" မှ နောက်ဆက်တွဲ (ဂ) ဖြင့် ဖော်ပြထားသော Master Plan ပါ မြေနေရာများတွင် စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ရန်အတွက် နှစ်ဖက်ညှိနှိုင်းသဘောတူညီချက်အရ မြေအသုံးချမှု ပရီမီယံကြေးများ တစ်လုံးတစ်ခဲတည်း ကြိုတင်ပေးသွင်းပြီး အပိုဒ် ၂-၀၂ ပါမြေ (၂၁၇.၈၀) ကေနှင့် ယင်းမြေပေါ်ရှိ ရွှေ့ပြောင်းနိုင်သောပစ္စည်း၊ မရွှေ့ပြောင်းနိုင်သော ပစ္စည်းများကို အပြီးအပိုင်လွှဲပြောင်းပေးရမည်။

အပိုဒ် ၄ **ငှားရမ်းကာလနှင့် ငှားရမ်းကာလတိုးမြှင့်ခြင်း**

၄-၀၁။ "မန်းစည်ပင်" နှင့် "ဖွံ့ဖြိုးသစ်" တို့သည် အပိုဒ် ၃-၀၁ ပါ မြေ (၃၃၀) ကေခန့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုသည့်နေ့မှ နှစ်ပေါင်း (၅၀) တိုင်တိုင်

တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်း စာချုပ်စနစ်ဖြင့် ငှားရမ်းလုပ်ကိုင်ရန် ဖြစ်ပါသည်။

၄-၀၂။ "ဖွံ့ဖြိုးသစ်" သည် ငှားရမ်းကာလ နှစ်ပေါင်း (၅၀) ကုန်ဆုံးပြီးနောက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ထပ်တိုးသက်တမ်းအဖြစ် တစ်ကြိမ်လျှင် (၁၀) နှစ်ဖြင့် (၂) ကြိမ်အထိ တိုးမြှင့်ဆောင်ရွက်နိုင်သည်။

## အပိုဒ် ၅ လုပ်ငန်းအစီအစဉ်များ

၅-၀၁။ "မန်းစည်ပင်" သည် စီမံခန့်ခွဲပိုင်ခွင့်ရှိသော မန္တလေးမြို့၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည် ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၈၄) ရေတံခွန်တောင်တွင် နိုင်ငံတကာ အဆင့်မီဂေါက်ကွင်း၊ Club House လုပ်ငန်း၊ စီးပွားရေးနှင့် လူနေအဆောက်အအုံများတည်ဆောက်နိုင်ရန်အတွက်နောက်ဆက်တွဲ(က)ဖြင့်ဖော်ပြထားသောအကျယ်အဝန်း(၅၄၇.၈၀)ဧက တည်နေရာမြေပုံကို အတည်ပြုပြီး "Yedagon Taung Golf Course Estate Project" အဖြစ် စီမံကိန်းဆောင်ရွက်ရန် ဖြစ်ပါသည်။

၅-၀၂။ "ဖွံ့ဖြိုးသစ်" သည် စာချုပ်အကျိုးသက်ရောက်သည့်နေ့မှစ၍ အငှားချထားသည့် မြေဧက (၃၃၀) ပေါ်တွင် နောက်ဆက်တွဲ (ဂ) ဖြင့် ဖော်ပြထားသော Master Plan ပါဗိသုကာနှင့်အင်ဂျင်နီယာဒီဇိုင်းအတိုင်း အောက်ဖော်ပြပါလုပ်ငန်းများကို နောက်ဆက်တွဲ (ခ) ဇယားပါ စီမံကိန်းတည်ဆောက်ကာလအတွင်း တည်ဆောက်ရမည် -

| No | Items | Maximum no of units | Estimated Cost/Unit | |
|---|---|---|---|---|
| | | | အမေရိကန်ဒေါ်လာ | မြန်မာကျပ်ငွေ |
| 1 | Golf Course | - | 14,520,833 | 17,425,000,000 |
| 2 | Club House | - | 2,323,068 | 2,787,681,082 |
| 3 | Amusement Park | - | 10,164,000 | 12,196,800,000 |

၅-၀၃။ "ဖွံ့ဖြိုးသစ်"သည်"မန်းစည်ပင်"မှ အပိုဒ် ၃-၀၂ အရ လွှဲပြောင်းရယူထားသော မြေ (၂၁၇.၈၀) ဧကပေါ်တွင် နောက်ဆက်တွဲ (ဂ) ရှိ Master Plan အတိုင်း အောက်ဖော်ပြပါ စီးပွားရေးနှင့် လူနေအဆောက်အအုံစီမံကိန်းလုပ်ငန်းများကို နောက်ဆက်တွဲ (ခ) ဇယားပါ စီမံကိန်းတည်ဆောက်ရေးကာလအတွင်း စတင် အကောင်အထည်ဖော်တည်ဆောက်ရမည် -

| No | Items | Maximum no of units | Estimated Cost/Unit | |
|---|---|---|---|---|
| | | | အမေရိကန်ဒေါ်လာ | မြန်မာကျပ်ငွေ |
| 1 | 3 Star Hotel | 184 | 7,380,080 | 8,856,095,535 |
| 2 | 5 Star Hotel | 234 | 13,858,439 | 16,630,127,341 |

| | | | | |
|---|---|---|---|---|
| 3 | International Hospital | 300 | 14,425,141 | 17,310,168,953 |
| 4 | International School | 300 | 23,233,044 | 27,879,653,385 |
| 5 | Shopping Center | 1 | 26,724,283 | 32,069,140,123 |
| 6 | Shop House | 196 | 39,080,089 | 46,896,107,046 |
| 7 | Semi Detached | 80 | 12,779,169 | 15,335,002,835 |
| 8 | 1st Row Urban Residence | 88 | 13,336,880 | 16,004,255,415 |
| 9 | 2nd Row Urban Residence | 91 | 30,199,395 | 36,239,274,052 |
| 10 | Urban Residence Type 3 | 22 | 7,912,942 | 9,495,529,827 |
| 11 | Urban Residence Type 4 | 37 | 8,182,849 | 9,819,419,175 |
| 12 | Golf Course View Building | 56 | 20,730,954 | 24,877,144,232 |
| 13 | Luxury Hill Building | 115 | 51,167,716 | 61,401,258,645 |
| 14 | Apartments | 601 | 41,135,807 | 49,362,968,166 |
| 15 | 16-4 Unit 5 Story Building for Employees | 320 | 18,816,096 | 22,579,314,923 |
| 16 | Road and Landscaping | - | 13,940,000 | 16,728,000,000 |
| 17 | M & E | - | 107,163,308 | 128,595,969,600 |

၅-၀၄။ "မန်းစည်ပင်" သည် "ဖွံ့ဖြိုးသစ်" ၏ ကျွမ်းကျင်ပညာရှင်များမှ ရေးဆွဲတင်ပြထားသော နောက်ဆက်တွဲ (ဂ) Master Plan ပါနိုင်ငံတကာအဆင့်မီ ဂေါက်ကွင်း၊ Club House၊ အားကစားအပန်းဖြေဥယျာဉ်၊ စီးပွားရေးဇုန်နှင့် လူနေအဆောက်အအုံတို့၏ ဗိသုကာနှင့်အင်ဂျင်နီယာဒီဇိုင်းများကိုလည်းကောင်း၊ နောက်ဆက်တွဲ (ဃ) ပါစီမံကိန်းလုပ်ငန်းများ၊ အဆောက်အအုံများနှင့် ပတ်သတ်သော ဆောက်လုပ်ရေးပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ၊ ယာဉ် ယန္တရားများ၊ စက်ပစ္စည်းများ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၏ စာရင်းဇယားများကိုစစ်ဆေးပြီး အတည်ပြုရမည်။

၅-၁၅။ "ဖွံ့ဖြိုးသစ်" သည် "မန်းစည်ပင်" မှ အတည်ပြုတွက်ချက်ထားသည့် အပိုဒ် ၅-၁၄ ပါ စီမံကိန်းလုပ်ငန်းများ၏ ဗိသုကာနှင့် အင်ဂျင်နီယာဒီဇိုင်းများအတိုင်း တည်ဆောက်ရန်ဖြစ်ပြီး လုပ်ငန်းများအလိုက် ဗိသုကာနှင့် အင်ဂျင်နီယာဒီဇိုင်းများကို အသစ်ရေးဆွဲခြင်း၊ မွမ်းမံပြင်ဆင်ခြင်းများ ပြုလုပ်လိုပါက ရက်ပေါင်း (၆၀) ကြိုတင်တင်ပြ၍ "မန်းစည်ပင်" ၏ သဘောတူညီချက်ဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်အရ ဆောင်ရွက်ရမည်။

၅-၁၆။ "မန်းစည်ပင်" နှင့် "ဖွံ့ဖြိုးသစ်" တို့သည် စီမံကိန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ရရှိပြီး ရက်ပေါင်း (၆၀) အတွင်း နောက်ဆက်တွဲ (ခ) ပါ စီမံကိန်းလုပ်ငန်းများကို လုပ်ငန်းတစ်ခုချင်းသတ်မှတ်ထားသော နှစ်အလိုက် တည်ဆောက်ရေးကာလကို ညှိနှိုင်းသတ်မှတ်ပြီးနောက် "ဖွံ့ဖြိုးသစ်" သည် သတ်မှတ်ထားသော တည်ဆောက်ရေးကာလအတွင်း တည်ဆောက်ရမည်။

၅-၁၇။ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် စီမံကိန်းတစ်ခုလုံး၏ တည်ဆောက်ရေးကာလကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ရရှိပြီးနောက် (၅) နှစ်အတွင်း တည်ဆောက်ရန်နှင့် ပြီးဆုံးနိုင်ခြင်းမရှိပါက "ဖွံ့ဖြိုးသစ်" သည် ရက်ပေါင်း (၆၀) ကြိုတင်၍ "မန်းစည်ပင်" သို့ တည်ဆောက်ရေးကာလကို တိုးမြှင့်ခွင့်ပြုနိုင်ရန် တင်ပြရပါမည်။

၅-၁၈။ "ဖွံ့ဖြိုးသစ်" သည် နောက်ဆက်တွဲ (ခ) ပါ လုပ်ငန်း တစ်ခုချင်းစီအလိုက် စီမံကိန်း စတင်အကောင်အထည်ဖော်ခြင်း၊ တည်ဆောက်မှုပြီးစီးခြင်း၊ စီးပွားဖြစ်လုပ်ငန်း စတင်လည်ပတ်ခြင်းတို့ကို "မန်းစည်ပင်" သို့ သတ်မှတ်အတည်ပြုနိုင်ရန် လုပ်ငန်းအလိုက်တင်ပြပြီး မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အခွန်အခကင်းလွတ်ခွင့်များ၊ သက်သာခွင့်များ ခွင့်ပြုပေးနိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက် တင်ပြဆောင်ရွက်ရမည်။

၅-၁၉။ "မန်းစည်ပင်" နှင့် "ဖွံ့ဖြိုးသစ်" တို့သည် အပိုဒ် ၅-၁၂ နှင့် ၅-၁၃ တွင် ဖော်ပြထားသော စီမံကိန်းပါလုပ်ငန်းများ၏ Estimated Cost/Unit ဖြင့် ဖော်ပြထားသည့် ခန့်မှန်းကုန်ကျတန်ဖိုးဖြစ်သော အမေရိကန်ဒေါ်လာနှင့် မြန်မာကျပ်ငွေများမှာ ပစ္စည်းတန်ဖိုး၊ လုပ်အားခ၊ သယ်ယူစရိတ်၊ ဗိသုကာနှင့် အင်ဂျင်နီယာဒီဇိုင်းများ အသစ်ရေးဆွဲခြင်း၊ မွမ်းမံပြင်ဆင်ခြင်း စသည့်အထွေထွေကိစ္စရပ်များ၏ အခြေအနေ၊ အချိန်အခါနှင့် ပြောင်းလဲကွာခြားမှုအပေါ် မူတည်၍ ခန့်မှန်းတန်ဖိုးကွာဟပြောင်းလဲမှုအား လက်ခံဆောင်ရွက်ရမည်။

**အပိုဒ် ၆ မြေငှားရမ်းအသုံးချမှုအတွက် ပရီမီယံကြေး၊မြေငှားခနှင့်ဒဏ်ကြေးငွေပေးသွင်းခြင်း**

၆-၀၁။ "ဖွံ့ဖြိုးသစ်" သည် "မန်းစည်ပင်" မှ အပိုဒ် ၃-၀၁ ပါ ငှားရမ်းရရှိမြေ (၃၃၀) ဧကပေါ်တွင် နိုင်ငံတကာအဆင့်မီဂေါက်ကွင်း၊ Club House နှင့် အပန်းဖြေ

အားကစားဥယျာဉ် တည်ဆောက်လုပ်ငန်းအတွက် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ်သန်း (၁၀၀၀) (ကျပ်သန်း တစ်ထောင်တိတိ) နှင့် မြေငှားရမ်းခ ကျပ်သန်း (၁၀၀၀) (ကျပ်သန်း တစ်ထောင်တိတိ) စုစုပေါင်း ကျပ်သန်း (၂၀၀၀) (ကျပ်သန်း နှစ်ထောင်တိတိ) သတ်မှတ်၍ တစ်လုံးတစ်ခဲတည်းကြိုတင်ပေးသွင်းရန်ကိုလည်းကောင်း၊ ၎င်းအပြင် မြေငှားရမ်းခအဖြစ် နှစ်စဉ် ကျပ် (၆၅) သန်း (ကျပ် ခြောက်ဆယ့်ငါးသန်းတိတိ) ကို လည်းကောင်း ခွဲဝေပေးသွင်းရန် နှစ်ဦးနှစ်ဖက် သဘောတူညီကြပါသည်။

၆-၀၂။ "ဖွံ့ဖြိုးသစ်" သည် "မန်းစည်ပင်" မှ အပိုဒ် ၃-၀၂ ပါ မြေ (၂၁၇.၈၀) ဧကကို လွှဲပြောင်းရယူပြီး စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ရေးအတွက် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ်သန်း (၁၄၀၀၀) (ကျပ်သန်း တစ်သောင်းလေးထောင်တိတိ) အဖြစ် တစ်လုံးတစ်ခဲတည်းကြိုတင်ပေးသွင်းရန် နှစ်ဦးနှစ်ဖက် သဘောတူညီကြပါသည်။

၆-၀၃။ "ဖွံ့ဖြိုးသစ်" သည် နှစ်ဦးနှစ်ဖက်သဘောတူညီထားသော အပိုဒ် ၆-၀၁ နှင့် အပိုဒ် ၆-၀၂ပါမြေအသုံးချမှုပရီမီယံကြေး ကျပ်သန်း (၁၅၀၀၀) (ကျပ်သန်း တစ်သောင်းငါးထောင်တိတိ) နှင့် မြေငှားရမ်းခ ကျပ်သန်း (၁၀၀၀) (ကျပ်သန်း တစ်ထောင်တိတိ) စုစုပေါင်း ကျပ်သန်း (၁၆၀၀၀) (ကျပ်သန်း တစ်သောင်း ခြောက်ထောင်တိတိ) အနက် ၅၀% ဖြစ်သော ကျပ်သန်း (၈၀၀၀) (ကျပ်သန်း ရှစ်ထောင်တိတိ) ကို ၂၀၁၅ ခုနှစ် ဇူလိုင်လနှင့် ဩဂုတ်လအတွင်း ကြိုတင် ပေးသွင်းခဲ့ခြင်းအား "မန်းစည်ပင်" မှ သဘောတူလက်ခံပြီး ကျန်ငွေ ကျပ်သန်း (၈၀၀၀) (ကျပ်သန်း ရှစ်ထောင်တိတိ) အား ဤစာချုပ်စတင်အကျိုးသက်ရောက် သည့်နေ့မှရက်ပေါင်း (၆၀) အတွင်း (သို့မဟုတ်) နှစ်ဦးနှစ်ဖက်ညှိနှိုင်းချက်အရ ပေးသွင်းရမည်။

၆-၀၄။ "ဖွံ့ဖြိုးသစ်" သည် နှစ်ဦးနှစ်ဖက်သဘောတူညီချက်အရ အပိုဒ် ၆-၀၁ ပါ နှစ်စဉ် မြေငှားရမ်းခ ကျပ် (၆၅) သန်း (ကျပ် ခြောက်ဆယ့်ငါးသန်းတိတိ) ကို ၂၀၁၅-၂၀၁၆ ဘဏ္ဍာရေးနှစ်မှစ၍ နှစ်စဉ်ဘဏ္ဍာရေးနှစ်အတွင်းအချိန်မီပေးသွင်းရမည်။

၆-၀၅။ "ဖွံ့ဖြိုးသစ်" သည် နှစ်စဉ်ပေးသွင်းရမည့် မြေငှားရမ်းခများကို သတ်မှတ်ကာလအတိုင်း အချိန်မီပေးသွင်းခြင်းမရှိပါက တစ်ရက်လျှင် မြေငှားရမ်းခငွေ၏ ၀.၀၅ % ကို "မန်းစည်ပင်" သို့ ဒဏ်ကြေးအဖြစ် ပေးသွင်းရမည်။

**အပိုဒ် ၇ "ဖွံ့ဖြိုးသစ်" ၏ တာဝန်ဝတ္တရားများ**

၇-၀၁။ "ဖွံ့ဖြိုးသစ်" သည် စီမံကိန်းတစ်ခုလုံးကို Developer အဖြစ် အကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံမှုကို ၁၀၀ % ဆောင်ရွက်ရမည်။

၇-၀၂။ "ဖွံ့ဖြိုးသစ်" သည် စီမံကိန်းပါအဆောက်အအုံများ တည်ဆောက်ခြင်း၊ ပြင်ဆင်မွမ်းမံခြင်း၊ အထောက်အကူပြု လုပ်ငန်းသုံးပစ္စည်းများ တပ်ဆင်ခြင်း တို့ကို

ဤစာချုပ်လက်မှတ်ရေးထိုးပြီးနောက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိသည့်နေ့ရက်မှ ရက်ပေါင်း (၆၀) အတွင်း စတင်အကောင်အထည် ဖော်၍ နောက်ဆက်တွဲ (ခ) ပါ တည်ဆောက်ရေးကာလအတိုင်း တည်ဆောက် ရမည်။ သို့ရာတွင် စီမံကိန်းပါလုပ်ငန်းများမှာ ရင်းနှီးမြှုပ်နှံမှု များပြားပြီး လုပ်ငန်းကျယ်ပြန့်သည့်အားလျော်စွာ ဆောက်လုပ်မှုပြီးစီးနိုင်ခြင်း မရှိခဲ့ပါက ကျိုးကြောင်း ဆီလျော်စွာဖြင့် (၃) လ ကြိုတင်၍ "မန်းစည်ပင်" သို့ တင်ပြ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် တည်ဆောက်ရေး သက်တမ်းကာလ စုစုပေါင်း (၂၄) လ တိုးမြှင့်ရယူနိုင်သည်။

၇-၀၃။ "ဖွံ့ဖြိုးသစ်" သည် ၂၀၁၃ ခုနှစ် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၄ (က)(ခ)(ဂ)(ဃ)(ဇ)(ဥ)(ပ)(ထ)(ဒ) ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောင်မြင်စေ ရန် ကြိုးပမ်းရမည်။

၇-၀၄။ "ဖွံ့ဖြိုးသစ်" အနေဖြင့် စာချုပ်ပါ ရင်းနှီးမြှုပ်နှံမှုနှင့် စီးပွားရေးလုပ်ဆောင်မှုများ အားလုံးသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများနှင့်အညီ ဆောင်ရွက်ရမည်။

၇-၀၅။ "ဖွံ့ဖြိုးသစ်" သည် "မန်းစည်ပင်" သို့မဟုတ် သက်ဆိုင်သော အစိုးရအဖွဲ့အစည်း များမှ ဤစာချုပ်အရ အကျုံးဝင်သော လုပ်ဆောင်မှုများနှင့် ပတ်သက်သည့် သတင်းအချက်အလက်များကို အကြောင်းအားလျော်စွာ တောင်းခံလာသည့်အခါ လိုအပ်ချက်နှင့်အညီ ပြုစုတင်ပြရမည်။

၇-၀၆။ "ဖွံ့ဖြိုးသစ်" သည် "မန်းစည်ပင်" မှ သဘောတူအတည်ပြုထားသော အပိုဒ် ၅-၀၂ နှင့် ၅-၀၃ တွင် ဖော်ပြထားသည့် စီမံကိန်းလုပ်ငန်းနှင့် လုပ်ငန်းအဆောက်အအုံ များ တည်ဆောက်ရာတွင်လည်းကောင်း၊ စီမံကိန်းအတွက်လိုအပ်သော ယာဉ် ယန္တရားများ၊ စက်ပစ္စည်းများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ ပြည်ပမှ တင်သွင်းရာတွင် လည်းကောင်း၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀ ပါ ပြဋ္ဌာန်းချက်နှင့် သက်ဆိုင်သော ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ရယူ ဆောင်ရွက်နိုင်ပြီး ယင်းဥပဒေပုဒ်မ ၁၅ (ဂ)(ဃ)၊ ပုဒ်မ ၁၆ (က)(ခ)(ဂ)(ဃ) (င)(စ) ရှိ ပြဋ္ဌာန်းချက်နှင့်အညီ တာဝန်နှင့်အခွင့်အရေးများအရ ရင်းနှီးမြှုပ်နှံ လုပ်ကိုင်ဆောင်ရွက်နိုင်သည်။

၇-၀၇။ စီမံကိန်းအဆောက်အအုံများတွင် လိုအပ်သောလျှပ်စစ်ဓာတ်အား၊ ရေပေးဝေရေး လုပ်ငန်း၊ အညစ်အကြေးစွန့်ပစ်မည့်စနစ်၊ ရေဆိုးစွန့်ပစ်စနစ်များ၊ မီးဘေး ကာကွယ်ရေး စနစ်များ၊ အမှိုက်သိမ်းစနစ်များ၊ လမ်းလုပ်ငန်းများ၊ ရေမြောင်း လုပ်ငန်းများ၏ ဆောင်ရွက်ရမည့် အသေးစိတ်ပုံစံများနှင့် ပတ်ဝန်းကျင် ဇရိယာ များနှင့် ဆက်စပ်ဆောင်ရွက်မည့် အခြေအနေအသေးစိတ်များအား Detail

Drawing များ၊ Profile ပုံစံများဖြင့် တင်ပြရမည်ဖြစ်ပြီး ပြီးပြည့်စုံအောင် တာဝန်ယူတည် ဆောက်ရမည်။ အညစ်အကြေးစွန့်ပစ်မည့် Drainage Systems ကို Location အလိုက်၊ Junction Point များ အလိုက် Drain ၏ X' Section၊ Bed Level များ ဖော်ပြပါရှိရမည်။ Solid Waste Disposal ဆောင်ရွက်မည့် အစီအမံများကို လည်း ထည့်သွင်းဖော်ပြရပါမည်။ ရေပေးဝေစနစ်များတွင် Pipe Laying Plan, Control Value, Hydrant Location များကို သီးခြားမြေပုံညွှန်းဖြင့် ဖော်ပြ၍ တည်ဆောက်ရမည်။

၇-၁၈။ ဂေါက်ကွင်း ပြုပြင်တည်ဆောက်ရာတွင် လိုအပ်သော ရေပေးဝေရေးလုပ်ငန်း၊ မြေယာအလှပြုပြင်ခြင်းလုပ်ငန်းများ၊ လျှပ်စစ်ဓာတ်အားလုပ်ငန်းများ၊ ဆောင်ရွက်ရမည့် အသေးစိတ်ပုံစံများအား Detail Drawing များ၊ Profile ပုံစံများဖြင့် ပြည့်စုံအောင် တာဝန်ယူ တည်ဆောက်ရမည်။

၇-၁၉။ "ဖွံ့ဖြိုးသစ်" သည် စီမံကိန်းပါတည်ဆောက်ရေးလုပ်ငန်းများ အသစ်ပြန်လည် တည်ဆောက်ရန်နှင့် တိုးချဲ့ဆောင်ရွက်ရန်လိုအပ်လျှင်သော်လည်းကောင်း၊ ပြုပြင်မွမ်းမံရန် လိုအပ်လျှင်သော်လည်းကောင်း ပေါ်ပေါက်ခဲ့ပါက ယင်းအဆောက်အအုံ ပုံစံများအတွက် "မန်းစည်ပင်" ၏ သဘောတူညီချက်ဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက် ရယူရမည်။

၇-၁၀။ "ဖွံ့ဖြိုးသစ်" သည် Developer ဖြစ်သည့်အားလျော်စွာ စီမံကိန်းပါလုပ်ငန်းများကို မိမိကိုယ်တိုင်သော်လည်းကောင်း၊ ပိုမိုအဆင့်အတန်းမြင့်လာရေးအတွက် "မန်းစည်ပင်" ၏ သဘောတူညီချက်အရ လုပ်ငန်းကျွမ်းကျင်သော အခြားကုမ္ပဏီ တစ်ခုခုဖြင့်သော်လည်းကောင်း၊ ပြည်ပကုမ္ပဏီအဖွဲ့အစည်းများနှင့်သော်လည်းကောင်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်နိုင်သည်။

၇-၁၁။ အဆောက်အအုံဆောက်လုပ်ခြင်းမပြုမီ မြေစမ်းသပ်မှု (Soil Test) ကို ကျွမ်းကျင်သော ပညာရှင်များဖြင့် ဆောင်ရွက်ရမည်။ တွေ့ရှိမှုအခြေအနေကို "မန်းစည်ပင်" သို့ တင်ပြရမည်။

၇-၁၂။ Enviromental Impact Assessment (EIA)၊ Social Impact Assessment (SIA)၊ Coperate Social Responsibilities (CSR) တို့နှင့် ပတ်သတ်၍ ဆောင်ရွက်မည့်လုပ်ငန်းများအား ဤစာချုပ် လက်မှတ်ရေးထိုးပြီးသည့်နေ့မှ (၁) နှစ်အတွင်း အပြီးဆောင်ရွက်ရမည်။ ဆောင်ရွက်ပြီးစီးပါက "မန်းစည်ပင်" သို့ ရက်ပေါင်း (၆၀) အတွင်း ပြန်လည် တင်ပြရမည်။

၇-၁၃။ ဂေါက်ကွင်းတည်ဆောက်နေစဉ်ကာလအတွင်း လက်ရှိကစားနေသောကွင်း (၃) ကွင်းအနက် (၂) ကွင်းကို လက်ရှိ Green Fees အတိုင်းဆက်လက်ကစားနိုင်ရေး အတွက် စီစဉ်ဆောင်ရွက်သွားရမည်။

၇-၁၄။ ဂေါက်ကွင်းလုပ်ငန်းများဆောင်ရွက်လျက်ရှိသည့် ကယ်ဒီများနှင့်ဝန်ထမ်းများ နေထိုင်နိုင်ရန် တိုက်ခန်း (သို့) နေအိမ်များကို အခြားနေရာတခုခု၌ စီစဉ်ပေးရမည်။

၇-၁၅။ "ဖွံ့ဖြိုးသစ်" သည် သက်ဆိုင်ရာဥပဒေနှင့်အညီ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုသာရရှိနိုင်ပြီး မြေခွန်များနှင့် အခြားအခွန်အခများကို ပေးဆောင်ရမည်။

**အပိုဒ် ၈ "မန်းစည်ပင်" ၏ တာဝန်များ**

၈-၀၁။ "မန်းစည်ပင်" သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှတစ်ဆင့် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရထံမှ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုချက်ရရှိရေးအတွက် ကူညီဆောင်ရွက်ပေးရမည်။

၈-၀၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်သက်သာခွင့်နှင့် ကင်းလွတ်ခွင့်များနှင့် တည်ဆဲဥပဒေအရ အခြားအခွန်သက်သာခွင့်များ လျှောက်ထားရာ၌ ကူညီဆောင်ရွက်ပေးရမည်။

၈-၀၃။ လိုအပ်သော ခွင့်ပြုချက်များ၊ မှတ်ပုံတင်မှုများ၊ လိုင်စင်များကို သက်ဆိုင်ရာ ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

၈-၀၄။ "ဖွံ့ဖြိုးသစ်" ၏ တည်ဆောက်ရေး လုပ်ငန်းများအတွက် လမ်းတံတား၊ ရေနှင့် လျှပ်စစ် Transformer ၊ Telephone များရရှိရေးအတွက် ကူညီဆောင်ရွက်ပေးရမည်။

၈-၀၅။ "ဖွံ့ဖြိုးသစ်" သည် မန္တလေးမြို့၏ ဖွံ့ဖြိုးစည်ပင် တိုးတက်မှုအတွက် ဆောင်ရွက်သည့် (Developer) ဖြစ်ရာ ဤစီမံကိန်း လုပ်ငန်းများအား အနှောင့်အယှက် ဖျက်ဆီးမှုများနှင့် ကျူးကျော်ဝင်ရောက်မှုများရှိပါက ဥပဒေနှင့်အညီ ကာကွယ်စောင့်ရှောက်ပေးရမည်။

၈-၀၆။ "မန်းစည်ပင်" သည် ရေတံခွန်တောင်ဂေါက်ကွင်းအား နိုင်ငံတကာအဆင့်မှီ ဂေါက်ကွင်း အသစ်တည်ဆောက်ခြင်းလုပ်ငန်း၊ စီးပွားရေးနှင့် လူနေအဆောက်အအုံများနှင့် စီမံကိန်းအဆောက်အအုံ ဆောက်လုပ်ခြင်းလုပ်ငန်း များကို အောင်မြင် ထိရောက်စွာ ဆောက်လုပ်နိုင်ရန် "ဖွံ့ဖြိုးသစ်" အား အတတ်နိုင်ဆုံး ကူညီဆောင်ရွက်ပေးရမည်။

၈-၀၇။ "မန်းစည်ပင်"သည်"ဖွံ့ဖြိုးသစ်" ကုမ္ပဏီမှစီမံကိန်းလုပ်ငန်းများ အကောင်အထည်ဖော်နိုင်ရန်အတွက် နောက်ဆက်တွဲ (က) ဖြင့်ဖော်ပြထားသော မြေ (၅၄၇.၈၀) ဧကနှင့် ယင်းမြေပေါ်ရှိ မရွှေ့မပြောင်းနိုင်သောပစ္စည်း၊ ရွှေ့ပြောင်းနိုင်သော ပစ္စည်းနှင့် အဆောက်အအုံများ၊ လုပ်ငန်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို "ဖွံ့ဖြိုးသစ်" သို့ အဖိုးစားနားမပါဘဲ လွှဲပြောင်းပေးအပ်ပြီးနောက် စီမံခန့်ခွဲခွင့် ပေးရမည်။

၈-၀၈။ "မန်းစည်ပင်" သည် မန္တလေး-ပြင်ဦးလွင် ကားလမ်းနှင့် သိပ္ပံလမ်းဆုံမှ ရေတံခွန်တောင်ဂေါက်ကွင်းအထိ နောက်ဆက်တွဲ (ဂ) ရှိ Master Plan ၌ဖော်ပြထားသော လမ်းကြောင်းပြမြေပုံအတိုင်း ဖောက်လုပ်မည့် (၄) မိုင်ကျော်အရှည်၊ အကျယ်ပေ

(၁၀၀)ခန့်ရှိ (၆)လမ်းသွား နိုင်လွန်ကတ္တရာလမ်းဖောက်လုပ်ခြင်းနှင့် ဆည်တော်ကြီးမြောင်းကျော်တံတား တည်ဆောက်ခြင်း လုပ်ငန်းများအတွက် လိုအပ်သော အကူအညီများ ဆောင်ရွက်ပေးရမည်။

၈-၀၉။ "မန်းစည်ပင်" သည် စီမံကိန်းအတွက် လိုအပ်သော သောက်သုံးရေဖူလုံစွာရရှိရန် အမရပူရမြို့နယ် ရှမ်းရွာကြီးကျေးရွာအနီး ဒုဋ္ဌာဝတီမြစ်မှ ရေတံခွန်တောင်ဂေါက်ကွင်းအထိ Water Supply လုပ်ငန်းအတွက် လိုအပ်သော အကူအညီများ ဆောင်ရွက်ပေးရမည်။

၈-၁၀။ "မန်းစည်ပင်" သည် "ဖွံ့ဖြိုးသစ်" မှ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ တာဝန်ယူတည်ဆောက်ထားသော ဤစာချုပ်အပိုဒ် ၅-၀၃ ပါလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ချက်နှင့်စပ်လျဉ်း၍ စီးပွားရေးလုပ်ကိုင်ရန်နှင့် လူနေထိုင်နိုင်ရန် ခိုင်မာသည့်အထောက်အထား စီစဉ်ပေးရမည်။

**အပိုဒ် ၉ စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့ရက်နှင့် စာချုပ်သက်တမ်း**

၉-၀၁။ ဤစာချုပ်သည် အသိသက်သေများရှေ့တွင် နှစ်ဦးနှစ်ဖက် သဘောတူစာချုပ်လက်မှတ်ရေးထိုးပြီးနောက် အပိုဒ် ၁၅-၀၁ တွင် ဖော်ပြထားချက်နှင့်အညီ စတင်အကျိုးသက်ရောက်မှု ရှိစေရမည်။

၉-၀၂။ စာချုပ်သက်တမ်းမှာ စာချုပ်သက်တမ်း စတင်အကျိုးသက်ရောက်သည့်နေ့မှစ၍ ငှားရမ်းကာလ နှစ်ပေါင်း (၅၀) ဖြစ်ပြီး ယင်းကာလကုန်ဆုံးပြီးနောက် ထပ်တိုးသက်တမ်းအဖြစ် တစ်ကြိမ်လျှင် (၁၀) နှစ်ဖြင့် (၂) ကြိမ် သက်တမ်းတိုးမြှင့်နိုင်သည်။

**အပိုဒ် ၁၀ ဂေါက်ကွင်း ဝန်ထမ်းများနှင့် နိုင်ငံခြားပညာရှင်များ ခန့်ထားရေး**

၁၀-၀၁။ "ဖွံ့ဖြိုးသစ်" က လိုအပ်သော လက်ရှိဂေါက်ကွင်းဝန်ထမ်းများကို တည်ဆဲဥပဒေများနှင့်အညီ ခန့်ထားပြီး ၎င်းတို့၏လစာများ၊ အခကြေးငွေများ၊ ခရီးစရိတ်များ၊ အခွင့်အရေးများကိုလည်း သက်ဆိုင်ရာ တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ ခွင့်ပြုသွားရမည်။

၁၀-၀၂။ "ဖွံ့ဖြိုးသစ်" သည် ကျွမ်းကျင်နိုင်ငံခြားဝန်ထမ်းများကို ခန့်ထားရာတွင် သက်ဆိုင်ရာဌာနများ၏ ခွင့်ပြုချက် ကြိုတင်ရယူရမည်။

၁၀-၀၃။ နိုင်ငံခြားသား ဝန်ထမ်းများကို ခန့်ထားပါက နိုင်ငံခြားသားဝန်ထမ်းများနှင့် ယင်းတို့၏ မိသားစုများ မြန်မာနိုင်ငံ၌ နေထိုင်စဉ် မြန်မာနိုင်ငံ၏ ဥပဒေများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက်ခြင်း မပြုရန် "ဖွံ့ဖြိုးသစ်" က တာဝန်ယူရမည်။

အပိုဒ် ၁၁ **အာမခံထားရှိခြင်း**

၁၁-၀၁။ မြန်မာ့အာမခံဥပဒေနှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေများအရ အားလုံးသော လိုအပ်သည့် အာမခံစနစ်အမျိုးမျိုးကို မြန်မာ့အာမခံလုပ်ငန်း (သို့မဟုတ်) အခြားသင့်လျော်သည့် အာမခံလုပ်ငန်းတွင် ထားရှိရမည်။

အပိုဒ် ၁၂ **ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ**

၁၂-၀၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀ တွင် ဖော်ပြ ပြဋ္ဌာန်းထားသော အခွန်ကင်းလွတ်ခွင့်နှင့် အခြားသက်သာခွင့်များကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ခံစားခွင့်ရှိစေရမည်။

အပိုဒ် ၁၃ **ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၁၃-၀၁။ "ဖွံ့ဖြိုးသစ်" သည် ရေတံခွန်တောင်ဂေါက်ကွင်း အဆင့်မြှင့်တင်ခြင်း လုပ်ငန်းစီမံကိန်း၊ စီမံကိန်းပါလုပ်ငန်းများနှင့် အဆောက်အအုံများတွင်လည်းကောင်း၊ ယင်းတို့၏ ပတ်ဝန်းကျင်တွင်လည်းကောင်း ပတ်ဝန်းကျင်ထိန်းသိမ်းမှုအတွက် တာဝန်ရှိရမည်။ ၎င်းသည် ရေ၊ မြေ၊ လေ ညစ်ညမ်းမှုနှင့် ပတ်ဝန်းကျင်မသန့်ရှင်းမှုများကို မဖြစ်ပေါ်စေရန် ထိန်းသိမ်းနိုင်ရမည်။ "ဖွံ့ဖြိုးသစ်" သည် သဘာဝပတ်ဝန်းကျင်ကာကွယ်မှုရှိစေရန် အစီအမံများနှင့် မိမိ၏လုပ်ငန်းဝန်းကျင် သာယာစိုပြေနှစ်လိုဖွယ်ရာရှိစေသော လုပ်ငန်းစဉ်များကို ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေအပါအဝင် တည်ဆဲဥပဒေများ နှင့်အညီ လုပ်ဆောင်ရမည်။

အပိုဒ် ၁၄ **စာချုပ်ရပ်စဲခြင်း**

၁၄-၀၁။ အောက်ဖော်ပြပါ အခြေအနေအဖြစ်အပျက်များ ပေါ်ပေါက်သည့်အခါတွင် စာချုပ်ရပ်စဲနိုင်သည် -

(က) စာချုပ်ဝင်နှစ်ဦးနှစ်ဖက်က စာချုပ်ရပ်စဲရန်သဘောတူပြီး မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုကော်မရှင် (ကော်မရှင်) သို့ စာဖြင့်တင်ပြလျှက် ယင်းကော်မရှင်ကလည်း သဘောတူခွင့်ပြုသည့်အခါ၊

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်က ဤစာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်သည့်အခါ၊

(ဂ) "ဖွံ့ဖြိုးသစ်" သည် လူမွဲအဖြစ်ခံယူသည့်အခါ၊

(ဃ) ဤတည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်း စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ ၊

(င) မလွန်ဆန်နိုင်သောဖြစ်ရပ်တစ်ဆက်တည်း (၆) လထက်ကျော်လွန်ဖြစ်ပွားပြီး စီမံကိန်းအကောင်အထည်မဖော်နိုင်သည့် အခြေအနေရောက်သည့်အခါ ။

**အပိုဒ် ၁၅ ကြိုတင်စည်းကမ်းသတ်မှတ်ချက်**

၁၅-၀၁။ ဤသဘောတူစာချုပ်ပါစည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာလွှတ်တော်၊ အစိုးရ၊ အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရန်လိုအပ်သောသဘောတူညီချက်နှင့်ခွင့်ပြုမိန့်များရရှိပြီးမှသာအတည်ဖြစ်၍ အကျိုးသက်ရောက်စေပြီး လုပ်ငန်းများ အကောင်အထည် ဖော်ဆောင်ရွက်ရန် သတ်မှတ်ပါသည်။

**အပိုဒ် ၁၆ မြေနှင့် နိုင်ငံတကာအဆင့်မီဂေါက်ကွင်း၊ Club House ၊ Amusement Park လုပ်ငန်းနှင့် အဆောက်အအုံများ လွှဲပြောင်းပေးခြင်း**

၁၆-၀၁။ "ဖွံ့ဖြိုးသစ်" ကုမ္ပဏီသည် အပိုဒ် ၄ နှင့် အပိုဒ် ၉-၀၂ ပါ စာချုပ်သက်တမ်းပြည့်မြောက်သည့်နေ့မှစ၍ ရက်ပေါင်း (၆၀) အတွင်း အပိုဒ် ၃-၀၁ တွင် ဖော်ပြထားသောငှားရမ်းမြေနှင့် ယင်းမြေပေါ်တွင် တည်ဆောက်ထားသော နိုင်ငံတကာအဆင့်မီဂေါက်ကွင်းနှင့် ဂေါက်ကွင်းလုပ်ငန်း၊ Club House နှင့် လုပ်ငန်းသုံးပစ္စည်းများကို ကောင်းမွန်စွာပုံမှန်အသုံးပြုနိုင်သည့်အခြေအနေအတိုင်း အဖိုးစားနားမပါဘဲ "ဖွံ့ဖြိုးသစ်" မှ "မန်းစည်ပင်" သို့ လွှဲပြောင်းပေးရမည်။

**အပိုဒ် ၁၇ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ**

၁၇-၀၁။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့်ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေ စိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့်ထိခိုက်ဆုံးရှုံးမှု ဖြစ်ပေါ်ခဲ့လျှင် စာချုပ်ဝင်များ၏နစ်နာမှုအတွက် မည်သူ့အပေါ်မျှတာဝန်မရှိစေရ။

၁၇-၀၂။ ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်လာပါက၊ ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့်အချိန်မှ (၁) လအတွင်း "ဖွံ့ဖြိုးသစ်" သည် "မန်းစည်ပင်" သို့ ချက်ချင်းစာဖြင့်ရေးသားအကြောင်းကြားရမည်။ "မန်းစည်ပင်" က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး၊ စာချုပ်ပါတည်ဆောက်ရေးကာလ၊ အငှားချထားမှုကာလနှင့် တိုက်ရိုက်သက်ဆိုင်သော ပြတ်တောက်ကာလ အပိုင်းအခြားအတွက်သက်သာခွင့်ပြုနိုင်သည်။

၁၇-၀၃။ ထိုမလွန်ဆန်နိုင်သည့်ဖြစ်ရပ်ကို ဖယ်ရှားပြီးသည်နှင့်တစ်ပြိုင်နက် ထိခိုက်နစ်နာသော စာချုပ်ဝင်သည် တာဝန်သိတတ်မှုဖြင့် အမြန်ဆုံးနှင့် အထိရောက်ဆုံး လုပ်ငန်းဆောင်ရွက်ရမည်။

**အပိုဒ် ၁၈ နစ်နာဆုံးရှုံးမှုများအတွက် တာဝန်ယူဖြေရှင်းခြင်း**

၁၈-၀၁။ "ဖွံ့ဖြိုးသစ်" သည် ဤစာချုပ် အပိုဒ် ၄ နှင့် ၉-၀၂ ပါစာချုပ်သက်တမ်းမကုန်ဆုံးမီ ဤစာချုပ်အပိုဒ် ၁၄-၀၁၊ ၁၅-၀၁ နှင့် ၁၇-၀၁ တွင် ဖော်ပြထားသောအကြောင်းများကြောင့် စာချုပ်ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်း၊ ဖျက်သိမ်းခြင်းခံရပါက စီမံကိန်းနှင့် ပတ်သက်၍ နစ်နာဆုံးရှုံးမှုများအတွက် "မန်းစည်ပင်" နှင့် "ဖွံ့ဖြိုးသစ်" တို့ ညှိနှိုင်းစာရင်းရှင်းလင်းပြီး "မန်းစည်ပင်" က ယင်းနစ်နာဆုံးရှုံးမှုအား တာဝန်ယူဖြေရှင်းပေးရမည်။

**အပိုဒ် ၁၉ စာချုပ်အား ပြင်ဆင်ဖြည့်စွက်ခြင်း**

၁၉-၀၁။ ဤစာချုပ်အား စာချုပ်ဝင်နှစ်ဖက်၏ စာဖြင့်သဘောတူညီမှုမပါဘဲ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း လုံးဝမပြုလုပ်ရ။ စာချုပ်ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများသည် စာချုပ်ဝင် နှစ်ဦးနှစ်ဖက် စာဖြင့်လက်မှတ်ရေးထိုးခြင်းဖြင့်သာ ပြုလုပ်နိုင်သည်။ ယင်းပြင်ဆင်ဖြည့်စွက်ချက်များကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မှတ်တမ်းတင်နိုင်ရန် ပေးပို့ဆောင်ရွက်ရမည်။

**အပိုဒ် ၂၀ စာချုပ်အား ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း**

၂၀-၀၁။ ဤစာချုပ် အပိုဒ် ၃-၀၂ တွင်ပါရှိသည့် သဘောတူညီချက်များ၊ စည်းကမ်းချက်များသည် B.O.O စနစ်သဘော သက်ရောက်ပါဝင်သဖြင့် စာချုပ်ထပ်မံချုပ်ဆိုရန် လိုအပ်သည့်အခါ သို့တည်းမဟုတ် ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေ တစ်ရပ်ရပ်ကြောင့် လုပ်ငန်းများအမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်ရန်မဖြစ်နိုင်သည့်အခါ စာချုပ်ဝင်ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် စာချုပ် ပါစည်းကမ်းချက်များကို ပြန်လည်ညှိနှိုင်းဆောင်ရွက်ရမည်။

**အပိုဒ် ၂၁ သဘာဝသယံဇာတပစ္စည်းတွေ့ရှိခြင်း**

၂၁-၀၁။ ဤသဘောတူစာချုပ်၏ စာချုပ်သက်တမ်းကာလအတွင်း အငှားချထားသည့် မြေနှင့် ဂါက်ကွင်း၏ မြေပေါ်မြေအောက်မှ မမျှော်လင့်ဘဲ ဓာတ်သတ္တုအရင်းအမြစ်များ၊ ကျောက်မျက်ရတနာများနှင့် သဘာဝသယံဇာတများ၊ ရှေးဟောင်းပစ္စည်းများ အစရှိသည်တို့ကို တွေ့ရှိလျှင် "ဖွံ့ဖြိုးသစ်" သည် "မန်းစည်ပင်" သို့ ချက်ချင်းအကြောင်းကြားရမည်။ "မန်းစည်ပင်" က သက်ဆိုင်ရာ အစိုးရအဖွဲ့အစည်းသို့ အကြောင်းကြားတင်ပြပေးရမည်။ အဆိုပါ ပစ္စည်းများကို "မန်းစည်ပင်" နှင့်

သက်ဆိုင်ရာအစိုးရ အဖွဲ့အစည်းများက မည်သည့်အချိန်၌မဆို လွတ်လပ်စွာ တူးဖော်ခွင့်ရှိစေရမည်။

**အပိုဒ် ၂၂ အငြင်းပွားမှု ဖြေရှင်းခြင်း**

၂၂-၀၁။ "ဖွံ့ဖြိုးသစ်" နှင့် "မန်းစည်ပင်" တို့အကြား ချုပ်ဆိုထားသောစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက ရှေးဦးစွာ နှစ်ဦးနှစ်ဖက်အကြား ကောင်းမွန်မျှတသော ပြေလည်မှုရရှိရေးအတွက် ညှိနှိုင်းခြင်းဖြင့် ပြေလည်အောင် ဆောင်ရွက် ကြရမည်။

၂၂-၀၂။ နှစ်ဦးနှစ်ဖက်အကြားအငြင်းပွားမှုကို မဖြေရှင်းနိုင်ပါက ထိုအငြင်းပွားမှုကို ၂၀၁၆ ခုနှစ် အနုညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေ (ပြည်ထောင်စုလွှတ်တော် ဥပဒေ အမှတ်-၅) ပြဋ္ဌာန်းချက်များနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံ မန္တလေးမြို့တွင် ဖြေရှင်းရမည်။

**အပိုဒ် ၂၃ စာပေးစာယူပြုရန် လိပ်စာများ**

၂၃-၀၁။ "မန်းစည်ပင်" နှင့် "ဖွံ့ဖြိုးသစ်" တို့အကြား စာဆက်သွယ်ခြင်း၊ အကြောင်းကြား စာပေးပို့ခြင်းများကို အောက်ပါလိပ်စာများသို့ လိပ်မူရမည်။

| (၁) "မန်းစည်ပင်" | (၂) "ဖွံ့ဖြိုးသစ်" |
|---|---|
| **ဥက္ကဋ္ဌ** | **အုပ်ချုပ်မှုဒါရိုက်တာ** |
| **မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ** | **ဖွံ့ဖြိုးသစ် ကုမ္ပဏီလီမိတက်** |
| **မန္တလေးမြို့။** | **အမှတ် ခ - ၄၀၁၊ ဗားဂရာလမ်း၊** |
| | **စမ်းချောင်း၊ ရန်ကုန်မြို့။** |

**အပိုဒ် ၂၄ လိုက်နာဆောင်ရွက်ရမည့်ဥပဒေ**

၂၄-၀၁။ နှစ်ဖက်သောစာချုပ်ဝင်များသည် ၎င်းတို့၏တာဝန်များ၊ သဘောတူညီချက်များ နှင့် သတ်မှတ်ချက်များကို ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် တည်ဆဲ ဥပဒေများ၊ နည်းဥပဒေ၊ စည်းကမ်းဥပဒေ၊ လုပ်ထုံးလုပ်နည်း ညွှန်ကြားချက်များ နှင့်အညီ ဆောင်ရွက်ကြရမည်။

အပိုဒ် ၂၅ အထွေထွေ

၂၅-၀၁။ ဤသဘောတူစာချုပ်များ၌ နှစ်ဖက်ညှိနှိုင်းချက်အရ ထပ်မံချုပ်ဆိုမည့် သဘောတူစာချုပ်များ ပူးတွဲပါရှိသော နောက်ဆက်တွဲပုံစံများ၊ မြေပုံများ၊ စာရင်းများ အားလုံးသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။

၂၅-၀၂။ ဤစာချုပ်ပါ သဘောတူညီချက်၊ စည်းကမ်းချက်၊ အချက်အလက်များနှင့် ဆန့်ကျင်သည့် ယခင်နားလည်မှုစာချွန်လွှာများ၊ အချင်းချင်းသဘောတူညီချက်များ၊ စည်းကမ်းချက်များ အားလုံးကိုလွှမ်းမိုးသည်။

၂၅-၀၃။ အထက်ပါအချက်အလက်များကို နားလည်သဘောပေါက်သိရှိသည့်အတိုင်း နှစ်ဦးနှစ်ဖက်သက်ဆိုင်သူများသည် အောက်တွင် မိမိ၏ လက်မှတ် နှင့် တံဆိပ်များကို အထက်ဖော်ပြရေးသားထားသည့် ၅၁ ရက်၊ ဖေဖော်ဝါရီလ ၂၀၁၆ ခုနှစ်တွင် သဘောတူကြောင်း လက်မှတ်ရေးထိုးရိုက်နှိပ်ကြပါသည်။

| မန်းစည်ပင် (ကိုယ်စား) | ဖွံ့ဖြိုးသစ် (ကိုယ်စား) |
|---|---|
| ဦးသက်နိုင်ထွန်း | ဦးမောင်မောင် |
| တွဲဖက်အတွင်းရေးမှူး | အုပ်ချုပ်မှုဒါရိုက်တာ |
| မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ | ဖွံ့ဖြိုးသစ် ကုမ္ပဏီလီမိတက် |







အသိသက်သေများ

(၁)

လက်မှတ် ...................

အမည် ...................

ရာထူး ...................

လိပ်စာ ...................

...................

(၂)

လက်မှတ် ...................

အမည် ဦး...

ရာထူး ...................

လိပ်စာ ဖွံ့ဖြိုးသစ်ကုမ္ပဏီ...

...................

နောက်ဆက်တွဲ (ခ)

## ဖွံ့ဖြိုးသစ် ကုမ္ပဏီမှ ရေတံခွန်တောင်ဂေါက်ကွင်းစီမံကိန်း တည်ဆောက်မည့် အစီအစဉ်နှင့် လုပ်ငန်းများ

| ဆောက်လုပ်မည့် အစီအစဉ် | အသစ်တည်ဆောက်မည့် လုပ်ငန်းများ | လုပ်ငန်းစတင်မည့်နေ့ | ပြီးဆုံးမည့်ကာလ | မှတ်ချက် |
|---|---|---|---|---|
| အဆင့် (၁) Year (1) | ဂေါက်ကွင်းစတုတ္ထကော်နာ၊ Amusement Park နှင့် Club House | စာချုပ်စတင် အကျိုးသက်ရောက်သည့်နေ့ | စတင်သည့်နေ့မှ (၁) နှစ်အတွင်း | |
| အဆင့် (၂) Year (2) | ဂေါက်ကွင်းတတိယကော်နာ၊ Amusement Park၊ 3 & 5 Star Hotels နှင့် Commercial Zone | စာချုပ်စတင် အကျိုးသက်ရောက်သည့်နေ့မှ (၁) နှစ်ပြည့်မြောက်သည့်နေ့ | စတင်သည့်နေ့မှ (၂) နှစ်အတွင်း | |
| အဆင့် (၃) Year (3) | ဂေါက်ကွင်းဒုတိယကော်နာ၊ 3 & 5 Star Hotels၊ Commercial Zone ၊ Shop House နှင့် International School and Hospital | စာချုပ်စတင် အကျိုးသက်ရောက်သည့်နေ့မှ (၂) နှစ်ပြည့်မြောက်သည့်နေ့ | စတင်သည့်နေ့မှ (၃) နှစ်အတွင်း | |
| အဆင့် (၄) Year (4) | ဂေါက်ကွင်းပထမကော်နာ၊ Semi Detached၊ 1st Row & 2nd Row Urban Residences၊ Urban Residences Type 3 & Type 4၊ Golf Course View နှင့် Luxury Hill Buildings | စာချုပ်စတင် အကျိုးသက်ရောက်သည့်နေ့မှ (၃) နှစ်ပြည့်မြောက်သည့်နေ့ | စတင်သည့်နေ့မှ (၄) နှစ်အတွင်း | |
| အဆင့် (၅) Year (5) | Apartments၊ 16-4 Unit 5 Story Building for Employees နှင့် တည်ဆောက်ပြီးလုပ်ငန်း များ အပြီးသတ်စစ်ဆေးခြင်း၊ | စာချုပ်စတင် အကျိုးသက်ရောက်သည့်နေ့မှ (၄) နှစ်ပြည့်မြောက်သည့်နေ့ | စတင်သည့်နေ့မှ (၅) နှစ်အတွင်း | |

မှတ်ချက်။ စီမံကိန်းစတင်သည့်နေ့မှ တည်ဆောက်ရေးကာလအတွင်း Road and Landscaping၊ Water Supply နှင့် M&E လုပ်ငန်းများကို တစ်ပြိုင်နက်တည်း ပါဝင်တည်ဆောက်သွားမည် ဖြစ်ပါသည်။

## မူရင်းစာချုပ်၏ မူရင်းခွဲ (သို့) မူရင်းမိတ္တူဖြစ်ကြောင်း သက်သေခံချက်

ဤစာချုပ်သည် မြန်မာနိုင်ငံတံဆိပ်ခေါင်းဥပဒေဇယားတွင်ပါရှိသော အမှတ်စဉ် (၃၅) အပိုဒ်ခွဲ (၅) အရ B.O.T သဘောတူ စာချုပ်စာတမ်းအမျိုးအစားဖြစ်၍ တံဆိပ်ခေါင်းခွန် ကျပ်သိန်း ၉၆၀ (ကျပ်သိန်း ကိုးရာ့ ခြောက်ဆယ်တိတိ) နှင့် ဒဏ်ငွေ (-) ထိုက်သင့်သော စာချုပ်စာတမ်း အမျိုးအစားဖြစ်ပါသည်။ မူရင်း စာချုပ်တွင် ထိုက်သင့်သော တံဆိပ်ခေါင်းခွန် ကျပ် သိန်း ၉၆၀ (ကျပ်သိန်း ကိုးရာ့ ခြောက်ဆယ်တိတိ) နှင့် ဒဏ်ငွေ (-) အား အောင်မြေသာဇံမြို့နယ် ပြည်တွင်းအခွန်များဦးစီးဌာန၊ မန္တလေးမြို့တွင် ပေးဆောင်ပြီး ကြောင်း တွေ့ရှိရပြီး မူရင်းစာချုပ်နှင့် တိုက်ဆိုင်စစ်ဆေးရာတွင် မှန်ကန်မှုရှိကြောင်း စီစစ်တွေ့ရှိရပါသည်။

ယခု မူရင်းခွဲ (သို့) မူရင်းမိတ္တူအဖြစ် ပြုလုပ်သောစာချုပ်တွင်လည်း ထိုက်သင့်သည့် တံဆိပ်ခေါင်းခွန် ကျပ် (၁၀၀/-) (ကျပ် တစ်ရာ တိတိ) အား (၁၈.၂.၂၀၁၆) ရက်နေ့တွင် ပေးဆောင်ပြီးဖြစ်သဖြင့် အထက်ပါ မူရင်းစာချုပ်၏ မူရင်းခွဲ (သို့) မူရင်းမိတ္တူဖြစ်ကြောင်း သက်သေ ခံပါသည်။




လက်မှတ် ..............................

အမည် ........(ခင်ဝင့်နိုင်)..........

ရာထူး မြို့နယ်အခွန်ဦးစီးဌာနမှူး

မြို့နယ် အောင်မြေသာစံမြို့နယ်

## MASTER PLAN

| | Block Classification | Total Area | Total Plot | 1plot Area |
|---|---|---|---|---|
| 1 | Shopping Center | 8.9 acres | 1 plot | 8.9 acres |
| 2 | Amusement Park | 28.5 acres | 1 plot | 28.5 acres |
| 3 | School | 6.2 acres | 1 plot | 6.2 acres |
| 4 | 3 Star Hotel | 2.4 acres | 1 plot | 2.4 acres |
| 7 | Low rise Apartment | 15.8 acres | 4 plots | 3.6, 3.4, 5.7, 3.1 acres |
| 8 | Semi-detached Residence | 7.1 acres | 80 plots | 0.083 acres(3600 sqft) |
| 9 | 1st Row Residence | 7.8 acres | 88 plots | 0.083 acres(3600 sqft) |
| 10 | 2nd Row Residence | 12.4 acres | 91 plots | 0.110 acres(4800 sqft) |
| 11 | Urban Residence Type 3 | 5.6 acres | 22 plots | 0.184 acres(8000 sqft) |
| 12 | Urban Residence Type 4 | 6.2 acres | 37 plots | 0.147 acres(6400 sqft) |
| 13 | Shop House | 8.4 acres | 196 plots | 0.025 acres(1080 sqft) |



| Block Classification | Total Area | Total Plot | 1plot Area |
|---|---|---|---|
| 5 5 Star Hotel | 5.1 acres | 1 plot | 5.1 acres |
| 6 International Hospital | 6.5 acres | 1 plot | 6.5 acres |
| 14 Golf Course View Residence | 14.5 acres | 56 plots | 0.23 acres(10000 sqft) |
| 15 Luxury Hill Residence | 42.5 acres | 115 plots | 0.32 acres(14000 sqft) |
| 16 Golf Course | 301.3 acres | | |






တိုင်းဒေသကြီးအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မန္တလေးတိုင်းဒေသကြီး - မန္တလေးမြို့

စာအမှတ်၊ ၁ / ၂ - ၉ / ဦး ၁(အထ၃)( ၇၉၆၈ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၂၈ ရက်

ညွှန်ကြားရေးမှူးချုပ်
အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
နေပြည်တော်

အကြောင်းအရာ။ **စက်မှု/စီးပွားမြေငှားဂရန်အသစ်ခွင့်ပြုချထားပေးနိုင်ပါရန်လျှောက်ထားလာမှု အပေါ် တင်ပြခြင်း**

၁။ မန္တလေးခရိုင်၊ပုသိမ်ကြီးမြို့နယ်၊အိုင်ကြီးကျေးရွာအုပ်စု၊ကွင်းအမှတ်/အမည်(၅၅၀-က၊ ချောင်းကြီး၀အရှေ့)၊ ဦးပိုင်အမှတ်(၁၊ ၂/၁၊ ၂/၂၊ ၃၊ ၄၊ ၅၊ N-၁)အသီးသီးမှ မြေဧရိယာ(၁၀.၂၀)ဧက၊ ရေကြည်ကျေးရွာအုပ်စု၊ ကွင်းအမှတ်/အမည် (၅၄၉၊ချောင်းကြီး၀မြောက်)၊ ဦးပိုင်ပေါင်း(၄၀)ခုမှ မြေဧရိယာ(၁၄၂.၈၃)ဧကနှင့် OA မြေဧရိယာ(၂.၂၀)ဧက၊စုစုပေါင်းမြေဧရိယာ(၁၄၅.၀၃)ဧက၊ ရေကြည်ကျေးရွာအုပ်စု၊ ကွင်းအမှတ်/အမည်(၅၄၈၊ ရေကြည်အရှေ့)၊ ဦးပိုင်ပေါင်း(၇)ခုမှ မြေဧရိယာ(၁၉.၁၉)ဧကနှင့်OAမြေဧရိယာ(၀.၄၆)ဧက၊စုစုပေါင်းမြေဧရိယာ(၁၉.၆၅)ဧက၊စုစုပေါင်းမြေဧရိယာ(၁၇၄.၈၈)ဧကအား **"နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်းနှင့် အပန်းဖြေမြေနေရာ"** အဖြစ် အသုံးပြုရန်အတွက် **"မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ"**အမည်ဖြင့်မြေငှားဂရန်**အသစ်**ခွင့်ပြုချထားပေး**နိုင်**ပါရန် " ဦးသက်နိုင်ထွန်း၊တွဲဖက်အတွင်းရေးမှူး၊ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ "မှ လျှောက်ထားလာမှုအပေါ် မန္တလေးခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနက အမှုတွဲဖွင့်လှစ် တင်ပြလာပါသည်။

၂။ အဆိုပါအမှုတွဲအားစိစစ်ရာ အောက်ပါအတိုင်း တွေ့ရှိရပါသဖြင့် မြေဧရိယာ(၁၇၄.၈၈)ဧကအား **"နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်းနှင့် အပန်းဖြေမြေနေရာ"** အဖြစ် အသုံးပြုရန်အတွက် **"မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ"** အမည်ဖြင့် စက်မှု/စီးပွားမြေငှားဂရန် **အသစ်** ခွင့်ပြုချထားပေးနိုင်ရေး ဆောင်ရွက်ပေးနိုင်ပါရန် အမှုတွဲနှင့်အတူ တင်ပြအပ်ပါသည် -

(က) လျှောက်လွှာနှင့် လျှောက်ထားသူ၏ ထွက်ဆိုချက် ပါရှိပါသည်။

(ခ) မြေစာရင်းပုံစံ( ၁၀၅၊ ၁၀၆ )များ ပါရှိပါသည်။

(ဂ) မြေပိုင်ဆိုင်မှု အထောက်အထားအနေဖြင့် မန္တလေးတိုင်းဒေသကြီးအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ( ၂၉.၃.၂၀၀၀ )ရက်စွဲပါစာအမှတ်၊ ၅ / ၄၃ - ၂၃၇/ ဦး ၆ ဖြင့် **အဆင့်မြင့်ဂေါက်ကွင်းမြေ** အဖြစ် အသုံးပြုရန်အတွက် **ဥက္ကဋ္ဌ၊ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ** အမည်ဖြင့် လ/န(၃၉) ခွင့်ပြုမိန့်အမှတ် ( ၁၀/၂၀၀၀ )မိတ္တူ ပါရှိပါသည်။

(ဃ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ( ၂၅.၁.၂၀၁၆ )ရက်စွဲပါစာအမှတ်၊ ၂/၃-၃/၇ဦး၆(၁၄၂)ဖြင့် **"နိုင်ငံတကာအဆင့်မီဂေါက်ကွင်းနှင့်အပန်းဖြေမြေနေရာ"** အဖြစ် အသုံးပြုရန်အတွက် **မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ** အမည်ဖြင့် လယ်ယာမြေအား အခြားနည်းအသုံးပြုရန် ၃၀(ခ)ခွင့်ပြုမိန့် မိတ္တူ ပါရှိပါသည်။

( င ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ( ၃၀.၉.၂၀၁၆ )ရက်စွဲပါစာအမှတ်၊ ၁ / ၂ - ၂ / ၂ ဦး ၆ ( ၁၁၂၆ )ဖြင့် ကျန်မြေဧရိယာ(၁၇၄.၈၈)ဧကအား မြေငှားဂရန် ရရှိရေးပြည်ထောင်စုအစိုးရအဖွဲ့ရုံးနှင့်ပြည်ထဲရေးဝန်ကြီးဌာနသို့ တင်ပြခွင့်ပြု နိုင်ရန် တင်ပြလာမှုအပေါ် အမှုတွဲအသစ်ဖွင့်လှစ်၍တင်ပြရန် အကြောင်းကြား စာပါရှိပါသည်။

( စ ) မြေဧရိယာ(၃၇၂.၉၂)ဧကအား **"နိုင်ငံတကာအဆင့်မီဂေါက်ကွင်းနှင့်အပန်းဖြေမြေနေရာ"**အဖြစ် အသုံးပြုရန်အတွက် **မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ** အမည်ဖြင့် နှစ်(၃၀)စက်မှု/စီးပွား မြေငှားဂရန်ခွင့်ပြုကြောင်း အမိန့် ကြော်ငြာစာအမှတ်(၇၆၀/၂၀၁၆) မိတ္တူပါရှိပါသည်။

(ဆ) **"နိုင်ငံတကာအဆင့်မီဂေါက်ကွင်းနှင့်အပန်းဖြေမြေနေရာ"** အဖြစ်အသုံးပြုရန် အတွက် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီအမည်ဖြင့် လယ်ယာမြေအားအခြားနည်းအသုံးပြုရန်၃၀(ခ)ခွင့်ပြုမိန့်ရရှိသည့်မြေဧရိယာ(၅၄၇.၈၀) ဧကအား မြေငှားဂရန်လျှောက်ထားစဉ်က ဆောင်ရွက်ခဲ့သည့် ကန့်ကွက်လွှာ ကြော်ငြာစာ ပါရှိပါသည်။

( ဇ ) လျှောက်ထားမြေဧရိယာ(၁၄၅.၀၃)ဧက၊ (၁၀.၂၀)ဧကနှင့်(၁၉.၆၅)ဧက၊စုစုပေါင်း (၁၇၄.၈၈)ဧကနှင့်ပတ်သက်၍ ထမ်းဆောင်ရမည့် မြေခွန်နှုန်းထားကို မြေ(၁) ဧကလျှင် ကျပ်(၃၀)သိန်းအပေါ်(၁၂%)ဖြင့် ကျပ်(၆၂,၉၅၆,၈၀၀)ဖြစ်ကြောင်း မြေခွန်နှုန်းထား တွက်ချက်မှုများ ပါရှိပါသည်။

( ဈ ) လျှောက်ထားသူ၏ ထွက်ဆိုချက်တွင် မြေငှားဂရန်အသစ်ခွင့်ပြုချထားပေးမည် ဆိုပါက ပေးသွင်းရမည့် အခွန်ငွေများကို မန္တလေးမြို့တော်စည်ပင်သာယာရေး ကော်မတီသို့ လုပ်ထုံးလုပ်နည်းနှင့်အညီ အဆင့်ဆင့်တင်ပြပြီး ကျေပွန်စွာ ပေး သွင်းသွားမည်ဖြစ်ပါကြောင်း ထွက်ဆိုချက် ပါရှိပါသည်။

(ည) လျှောက်ထားမြေသည် ဆည်ရေသောက်ဧရိယာတွင် ပါဝင်ခြင်း မရှိပါကြောင်း နှင့်ဌာနမှထိန်းသိမ်းသောဆည်တာတမံများ၏ ရေဆင်းဧရိယာ၊ရေဝပ်ဧရိယာ၊ တူးမြောင်းနယ်နိမိတ်တို့နှင့်လွတ်ကင်းပါကြောင်း ဆည်မြောင်းနှင့် ရေအသုံးချမှု စီမံခန့်ခွဲရေးဦးစီးဌာန၊ဦးစီးအရာရှိရုံး၊မန္တလေးမြို့၏တင်ပြစာမိတ္တူပါရှိပါသည်။

(ဋ) လျှောက်ထားမြေပေါ်ရှိ လက်ရှိမြေပြင်အဆောက်အဦမှတ်တမ်းဓာတ်ပုံများနှင့် ပတ်ဝန်းကျင်ပြမြေပုံ ပါရှိပါသည်။

(ဌ) ရေကြည်ကျေးရွာအုပ်စုနှင့် အိုင်ကြီးကျေးရွာအုပ်စုအုပ်ချုပ်ရေးမှူးများ၏ ထောက်ခံချက်များ ပါရှိပါသည်။

(ဍ) ရေကြည်ကျေးရွာအုပ်စုနှင့် အိုင်ကြီးကျေးရွာအုပ်စုတို့၏ မြေတိုင်းစာရေးများ၏ ထွက်ဆိုချက်နှင့် မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာနမှူး၏ ကွင်းဆင်းစစ်ဆေးချက် အစီရင်ခံစာ ပါရှိပါသည်။

(ဎ) ခရိုင်/မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ ထောက်ခံချက်၊ ခရိုင်/မြို့နယ် အုပ်ချုပ်ရေးမှူး၏ ကွင်းဆင်းစစ်ဆေးချက် အစီရင်ခံစာများ၊ အစည်းအဝေး မှတ်တမ်းများပါရှိပါသည်။

(ဏ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားနှင့် အစည်းအဝေးမှတ်တမ်း ကောက်နုတ်ချက်မိတ္တူမှန် ပါရှိပါသည်။

ပူးတွဲ - အမှုတွဲအမှတ်( ၉၃/ ၂၀၁၆ - ၂၀၁၇ )(အသစ်)(၁)တွဲ

မြင့်တင်
အုပ်ချုပ်ရေးမှူး

မိတ္တူကို

သက်ဆိုင်ရာအမှုတွဲ
လှည့်လည်စာတွဲ
ရုံးလက်ခံ



မြေစာရင်းပုံစံ - ၁၀၅

2016- 042919

မှန်ကန်ကြောင်း သက်သေခံ / သက်သေမခံ သောလက်ရှိမြေပုံတွင် ယခုနှစ်အသုံးပြုသော ဦးပိုင်မြေပုံ

**DALMS**







စကေး ၁၆ လက်မ = ၁မိုင်

| | |
|---|---|
| တိုင်းဒေသကြီး / ပြည်နယ် | မန္တလေး |
| ခရိုင် | မန္တလေး |
| မြို့နယ် / မြို့နယ်ခွဲ | ပုသိမ်ကြီး |
| ရပ်ကွက် / ကျေးရွာအုပ်စု | ဒိုင်ကြီး |
| ကွင်း / အကွက်အမှတ်နှင့်အမည် | ၅၅၀ / ဖွေချမ်းပြင်ဝဲစေ |
| ဦးပိုင်အမှတ် / မြေကွက်အမှတ် | ၁၊၂/၁၊၂/၂၊၃၊၄၊၅၊၆/၁ |




ညွှန်ပြချက်

၁။ ရောင်းချလက်လွှဲထားသောမြေနေရာ

၂။ ဦးပိုင်နယ်နိမိတ်

| ဦးပိုင် အမှတ် | အခွန်စည်းကြပ်ခံရသူ / ပိုင်ရှင် / ဂရန်ရှင် / အငှားဂရန်ရှင် အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့် အတန်း | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| ၁/၁ | အစိုးရ | အစိုးရ | OA | ၁.၀၀ | [illegible] |
| ၁/၂ | | | | .၆၈ | |
| ၂ | | | | ၂.၃၀ | |
| ၃ | | | | ၁.၈၅ | |
| ၄ | | | | ၂.၈၅ | |
| ၅ | | | | ၁.၀၀ | |
| ၆/၁ | | | | ၁.၁၀ | |
| | | | | ၁၀.၂၀ | |

| | |
|---|---|
| ရေးကူးပေးသည့်အကြောင်းအရာ | ဂရန်လျှောက်ထားရန် |

(အထက်ဖော်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်။)

လျှောက်ထားသူအမည် - [illegible]

လျှောက်လွှာတင်သည့်နေ့စွဲ - ၂၀.၁၀.၂၀၁၆

လျှောက်ထားသူသို့ ထုတ်ပေးသည့်နေ့စွဲ - ၂၀.၁၀.၂၀၁၆

ယခုအထက်တွင် ပြဆိုသောမြေပုံမှာ မှန်ကန်သေချာစွာ ရေးကူးထားသော (၂၀၁၆ / ၂၀၁၇) ခုနှစ် အတွက် နောက်ဆက်တွဲတိုင်းတာခြင်း မြေပုံဖြစ်ကြောင်း သက်သေခံလက်မှတ် ရေးထိုးပါသည်။

အမှုထမ်း၊ မြေတိုင်းစာရေးလက်မှတ် - [illegible]

မြေတိုင်း(၄)

နေ့စွဲ -

တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည်။

ဦးစီးအရာရှိလက်မှတ် - [illegible]

နေ့စွဲ -

စိစစ်အတည်ပြုပါသည်။

မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာနမှူးလက်မှတ်

နေ့စွဲ

မြေစာရင်းပုံစံ - ၁၀၅

2016- 042921

မှန်ကန်ကြောင်း $\frac{\text{သက်သေခံ}}{\text{သက်သေမခံ}}$ သောလက်ရှိမြေပုံတွင် ယခုနှစ်အသုံးပြုသော ဦးပိုင်မြေပုံ

လက်စံရေးကူးရန်ပုံစံ

**DALMS**

W N E S

စကေး ၁၆ လက်မ = ၁မိုင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀ကျပ် K 5000 5000 5000

| | |
|---|---|
| တိုင်းဒေသကြီး / ပြည်နယ် <br> မန္တလေး | |
| ခရိုင် <br> မန္တလေး | |
| မြို့နယ် / မြို့နယ်ခွဲ <br> [illegible] | |
| ရပ်ကွက် / ကျေးရွာအုပ်စု <br> [illegible] | |
| ကွင်း / အကွက်အမှတ်နှင့်အမည် <br> [illegible] | |
| ဦးပိုင်အမှတ် / မြေကွက်အမှတ် <br> ၄၀ | |

[illegible]

| ဦးပိုင်အမှတ် | အစွန်စည်းကြပ်ခံရသူ / ပိုင်ရှင် / ဂရန်ရှင် / အငှားဂရန်ရှင်အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့်အတန်း | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| ၄၀ | | အာမိုး ၇ | ၀A | ၁၄.၂၃ | [illegible handwritten remarks] |
| ၀A | | " | " | ၂.၂၀ | |
| ပေါင်း | | | | ၁၆.၄၃ | |

| | |
|---|---|
| ရေးကူးပေးသည့်အကြောင်းအရာ | [illegible] |

(အထက်ဖော်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်။)

လျှောက်ထားသူအမည် - ဦး[illegible] ([illegible])

လျှောက်လွှာတင်သည့်နေ့စွဲ - ၂၀-၁၀-၂၀၁၆

လျှောက်ထားသူသို့ ထုတ်ပေးသည့်နေ့စွဲ - ၂၀-၁၀-၂၀၁၆

ယခုအထက်တွင် ပြဆိုသောမြေပုံမှာ မှန်ကန်သေချာစွာ ရေးကူးထားသော ($\frac{၂၀၁၆}{၂၀၁၇}$)ခုနှစ် အတွက် နောက်ဆက်တွဲတိုင်းတာခြင်း မြေပုံဖြစ်ကြောင်း သက်သေခံလက်မှတ် ရေးထိုးပါသည်။

အမှုတွဲထိန်း / မြေတိုင်းစာရေးလက်မှတ် -

နေ့စွဲ - ၂၀-၁၀-၂၀၁၆

(ဇော်မင်းထွန်း)
မြေတိုင်း (၄)

တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည်။

ဦးစီးမှူးလက်မှတ် -

နေ့စွဲ - ၂၀-၁၀-၂၀၁၆

(ဦးစိုး)
ဦး[illegible]

(ဇော်မင်းထွန်း)
လက်ထောက်ဦးစီးမှူး (စစ်ဆေးရေး)
လယ်ယာမြေစီမံခန့်ခွဲမှုနှင့်
စာရင်းအင်းဦးစီးဌာန
[illegible]မြို့နယ်

ရုံးတံဆိပ်

စိစစ်အတည်ပြုပါသည်။

မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာနမှူးလက်မှတ်

နေ့စွဲ



မြေတိုင်းပုံစံ-၁၀၅ 2016- 042920

မှန်ကန်ကြောင်း သက်သေခံ / သက်သေမခံ သောလက်ရှိမြေပုံတွင် ယခုနှစ်အသုံးပြုသော ဦးပိုင်မြေပုံ လက်ခံရေးကူးရန်ပုံစံ

**DALMS**




စကေး ၁၆ လက်မ = ၁မိုင်




| | |
|---|---|
| တိုင်းဒေသကြီး / ပြည်နယ်<br>မန္တလေး |  |
| ခရိုင်<br>မန္တလေး | |
| မြို့နယ် / မြို့နယ်ခွဲ<br>ပုသိမ်ကြီး | |
| ရပ်ကွက် / ကျေးရွာအုပ်စု<br>ရေကြည် | |
| ကွင်း / အကွက်အမှတ်နှင့်အမည်<br>၁၄၅၈-ရေကြည်အရှေ့ | |
| ဦးပိုင်အမှတ် / မြေကွက်အမှတ်<br>၇ | |

| ဦးပိုင်အမှတ် | အခွန်စည်းကြပ်ခံရသူ / ပိုင်ရှင် / ဂရန်ရှင် / အငှားဂရန်ရှင်အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့်အတန်း | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| | | | | | |
| ၇ | | အာဆီး-၇ | ၀A | ၁၉.၁၉ | |
| ၀A | | ၊ | ၊ | ၀.၄၆ | |
| ပေါင်း | | | | ၁၉.၆၅ | |
| | | | | | |

| | |
|---|---|
| ရေးကူးပေးသည့်အကြောင်းအရာ | ရောင်းရန်... |

(အထက်ဖော်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်။)

လျှောက်ထားသူအမည် ...

လျှောက်လွှာတင်သည့်နေ့စွဲ ၂၀-၁၁-၂၀၁၆

လျှောက်ထားသူသို့ ထုတ်ပေးသည့်နေ့စွဲ ၂၀-၁၁-၂၀၁၆

ယခုအထက်တွင် ပြဆိုသောမြေပုံမှာ မှန်ကန်သေချာစွာ ရေးကူးထားသော (၂၀၁၆ / ၂၀၁၇) ခုနှစ် အတွက် နောက်ဆက်တွဲတိုင်းတာခြင်း မြေပုံဖြစ်ကြောင်း သက်သေခံလက်မှတ် ရေးထိုးပါသည်။

အမှုတွဲထိန်း / မြေတိုင်းစာရေးလက်မှတ် -

နေ့စွဲ - ၂၀-၁၁-၂၀၁၆

တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည်။

လက်ထောက်ဦးစီးမှူးလက်မှတ် -

နေ့စွဲ - ၂၀-၁၁-၂၀၁၆

(ဦးဦး)
ဦး၊စ၊ဘ၊ဖ၊ဖ

စိစစ်အတည်ပြုပါသည်။

မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာနမှူးလက်မှတ် နေ့စွဲ




ဦးပိုင်တစ်ခုချင်းရာဇဝင်

မြို့နယ် ...ညောင်ဦး... မြို့နယ် ...ညောင်ဦးမြို့... မြေတိုင်းစာရေးအုပ်စု ...ညောင်ဦးမြို့... ကွင်း/အကွက်အမှတ်နှင့်အမည် ...၅၅/မြောင်းခြင်း...

| ခုနှစ် | ဦးပိုင် | အခွန်စည်းကြပ်ခံရသူ/ပိုင်ရှင်အမည်/ဂရန်ရှင်/အငှားဂရန်ရှင် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့်အတန်း | ဧရိယာ(ဧက) | အခွန်တော်သင့်ငွေ (မြို့ကြေးအပါအဝင်) (ကျပ်) | မည်ကဲ့သို့ပြောင်းလဲသည့်ညွှန်ပြချက် |
|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ |
| ၂၀၁၆ | ၁ | အစိုးရ | အစိုးရ | OA | ၁.၀၀ | | ညောင်ဦးဒေသဖွံ့ဖြိုးရေးကော်မတီ၊ အစိုးရအဖွဲ့ ဖ(ငန်း) ၂၅.၁.၁၈၁ ရက်စွဲပါစာအမှတ်၊ ၂၇၃-၃/ ၇ ဦး၆ ၀၀၄၂၂ အရ မြို့တော်ကားဂိတ်ဆောင်ရွက်ရန်ကျွေ့အသုံးပြုမှုအတွက် ခွင့်ပြု |
| - | ၂/၁ | | - | - | .၆၅ | | |
| - | ၂/၂ | | | | ၂.၁၀ | | |
| - | ၃ | | | | ၁.၅၀ | | |
| - | ၄ | | | | ၂.၇၅ | | |
| - | ၅ | | | | ၁.၀၀ | | |
| - | ၆/၁ | | | | ၁.၁၀ | | |
| | | | | | ၁၀.၂၀ | | |




လျှောက်ထားသူအမည် - ဦးသက်ဦးထွန်း (တွဲဘက်အတွင်းရေးမှူး)
လျှောက်လွှာတင်သည့်နေ့စွဲ - ၂၀.၁၀.၂၀၁၆
လျှောက်ထားသူထံလက်ခံပေးအပ်သည့်နေ့စွဲ - ၂၀.၁၀.၂၀၁၆
ရေးကူးပေးသည့်အကြောင်းအရာ - ဂရန်လျှောက်ထားရန်
(ဖော်ပြပါအကြောင်းအရာအတွက်သာအသုံးပြုခွင့်ရှိသည်။)

အထက်ပါရေးကူးဖော်ပြသောအကြောင်းအရာတို့မှာ၂၀၁၆ - ၂၀၁၇ ခုနှစ်အတွက်နှစ်စဉ် မြေတိုင်းတာခြင်းမြေပုံနှင့်မှတ်ပုံတင်စာရင်းများတွင်ပါရှိသည့်အတိုင်းအမှန်လက်ခံရေးကူးကြောင်းသက်သေခံပါသည်။

(ဦးဦး)
ဦးစီး ဆရာ
မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်
စာရင်းအင်းဦးစီးဌာန
ညောင်ဦးမြို့နယ်

အုပ်ချုပ်ရေးမှူးတွဲထိန်း/မြေတိုင်းစာရေးလက်မှတ် - အောင်ကျော်ထွန်း၊
နေ့စွဲ - မြေတိုင်း(၄)

ရေးကူးအပ်ဦးစီးဌာနက ဆိုင်စစ်ဆေးပြီးမှန်ကန်ပါသည်။
လက်ထောက်ဦးစီးမှူးလက်မှတ် -
နေ့စွဲ -

(ဇော်မင်းထွန်း)
ဆက်ထောက်ဦးစီးမှူး



ပုံစံ-၁၀၆

ဦးပိုင်ပြောင်းလဲမှုမှတ်တမ်း

ကျေးရွာအုပ်စု - [illegible] ....... မြို့နယ် ....... [illegible] ....... မြေတိုင်းစာရေးအုပ်စု ....... [illegible] ....... ကွင်း/အကွက်အမှတ်နှင့်အမည် ....... [illegible]

| ဦးပိုင်နှစ် | ဦးပိုင် | အခွန်စည်းကြပ်ခံရသူ/ ပိုင်ရှင်အမည်/ဂရန်ရှင်/ အငှားဂရန်ရှင် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့်အတန်း | ဧရိယာ(ဧက) | အခွန်တော်ဟင်္သာ (ခိုင်ကြေးအပါအဝင်) (ကျပ်) | မည်ကဲ့သို့ပြောင်းလဲသည့်ညွှန်ပြချက် |
|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ |
| [illegible] / [illegible] | ၇ ၀A | | [illegible] | ၀A | [illegible] | [illegible] | |
| | [illegible] | | | | [illegible] | | |




လျှောက်ထားသူအမည် - [illegible]
လျှောက်လွှာတင်သည့်နေ့စွဲ - [illegible]
လျှောက်ထားသူထံလက်ခံပေးအပ်သည့်နေ့စွဲ - [illegible]
ရေးကူးပေးသည့်အကြောင်းအရာ - [illegible]
(ဖော်ပြပါအကြောင်းအရာအတွက်သာအသုံးပြုခွင့်ရှိသည်။)

အထက်ပါရေးကူးဖော်ပြပါအကြောင်းအရာကို [illegible] ခုနှစ်အတွက်နှစ်စဉ် [illegible] မြေတိုင်းအခြေခံမြေပုံနှင့်မှတ်ပုံတင်စာရင်းများတွင်ပါရှိသည့်အတိုင်းအမှန်လက်ခံရေးကူး [illegible] ပါသည်။

အမှုတွဲထိန်း/မြေတိုင်းစာရေးလက်မှတ် -

နေ့စွဲ - [illegible]

တိုက်ဆိုင်စစ်ဆေးပြီးမှန်ကန်ပါသည်။

လက်ထောက်ဦးစီးမှူးလက်မှတ် -

နေ့စွဲ - [illegible]

မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂(၅) ၉ - ၃၈ /နပတ( ၇ ၃၈)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၁၉ ရက်

အကြောင်းအရာ။ **မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် ရေတံခွန်တောင်အား အဆင့်မြင့်ဂေါက်ကွင်းတိုးချဲ့တည်ဆောက်ရေးလုပ်ငန်းစီမံကိန်းတည်ဆောက်ရေးပဏာမသဘောတူစာချုပ်(MOU)(မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ (၁) မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံး၏ ၃-၇-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၉(၂) ၁/၁ (၀၅၉)

(၂) မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၊ စီမံရေးရာဌာန၏ ၂၂-၆-၂၀၁၅ ရက်စွဲပါစာအမှတ်၊ (၀၀၄)/ အကြံပေး (၂၀၁၅)

၁။ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ (မန္တလေးမြို့တော်စည်ပင်)နှင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်တို့အကြား ပုသိမ်ကြီးမြို့နယ်၊ ရေတံခွန်တောင်ဒေသရှိ ရေတံခွန်တောင်အား အဆင့်မြင့်ဂေါက်ကွင်းတိုးချဲ့တည်ဆောက်ရေးလုပ်ငန်း စီမံကိန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုမည့် တည်ဆောက်ရေးပဏာမ သဘောတူစာချုပ်(MOU)(မူကြမ်း) အပေါ် ဥပဒေအကြံပြုချက်ပေးနိုင်ပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း)သည် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီက မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံးသို့ ရည်ညွှန်းချက်(၂)ပါစာဖြင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ နေပြည်တော်သို့ လမ်းညွှန်မှုပြုနိုင်ပါရန် တင်ပြလာသဖြင့် မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံးက ဤရုံးသို့ ရည်ညွှန်းချက်(၁)ပါစာဖြင့် ဆက်လက်တင်ပြလာခြင်းဖြစ်ပါသည်။

၃။ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း)အား လေ့လာစိစစ်ရာ စာချုပ်(မူကြမ်း)၏ မျက်နှာဖုံးစာမျက်နှာနှင့် ခေါင်းစဉ်တို့တွင် "ပဏာမ သဘောတူစာချုပ် (MOU)" ဟုဖော်ပြထားသော်လည်း စည်းကမ်းချက်များကို BOT စာချုပ်ကဲ့သို့ ပြုစုထားကြောင်း တွေ့ရှိရပါသည်။ သို့ပါ၍ နားလည်မှုစာချွန်လွှာ Memorandum of Understanding (MOU) အဖြစ် ချုပ်ဆိုလိုခြင်းဟုတ် မဟုတ် ရှင်းလင်းမှုမရှိသဖြင့် ၉-၇-၂၀၁၃ ရက်နေ့၌ ဌာနသို့ ဆက်သွယ်မေးမြန်းခဲ့ပါသည်။

၄။ ထိုသို့မေးမြန်းခဲ့ရာ ဌာနမှ တာဝန်ရှိသူက MOU အဖြစ် ချုပ်ဆိုလိုခြင်းဖြစ်ကြောင်း ပြောကြားခဲ့ပါသည်။ ထိုသို့ပြောကြားသဖြင့် ရည်ညွှန်းချက်(၁)ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း)အား MOU ကဲ့သို့ပြင်ဆင်ပြုစုပေးပါရန် ဤရုံးမှ ပြောကြားခဲ့ရာ ၁၃-၇-၂၀၁၃ ရက်နေ့တွင် ပြန်လည်ပြုစုထားသော MOU (မူကြမ်း)အား ပေးပို့လာပါသည်။

၅။ သို့ပါ၍ ၁၃-၇-၂၀၁၃ ရက်နေ့တွင် ပြန်လည်ပြုစုထားသော MOU (မူကြမ်း)အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) MOU (မူကြမ်း) အပိုဒ် ၅ ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်၏တာဝန်များ၊ အပိုဒ်ခွဲ ၅-၀၂ ၌ အဆောက်အဦနှင့် အသေးစိတ်ပုံစံ၊ စံချိန်စံညွှန်းများနှင့် အသေးစိတ်တွက်ချက်မှုများကို MOU ချုပ်ဆိုပြီးနောက် ၆ လအတွင်း မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီသို့ တင်ပြရမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ သို့သော် အပိုဒ် ၁၄ အထွေထွေ၊ အပိုဒ်ခွဲ ၁၄-၀၃ ၌ ဤ MOU ၏ သက်တမ်းသည် MOU အကျိုးသက်ရောက်သည့်နေ့မှ (၃၁-၁၂-၂၀၁၇) ရက်နေ့အထိဖြစ်ပါသည်ဟု ဖော်ပြထားပြီး အပိုဒ်ခွဲ ၁၄-၀၄ ၌ ဤ MOU သည် ---------- အဆောက်အဦနှင့် အသေးစိတ်ပုံစံ၊ စံချိန်စံညွှန်းများနှင့် အသေးစိတ် တွက်ချက်မှုများပြုလုပ်ရန်အတွက် ခွင့်ပြုခြင်းသက်သက်သာဖြစ်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ သို့ပါ၍ MOU အဆင့်သာဖြစ်သောကြောင့် MOU ၏သက်တမ်းအား MOU အကျိုးသက်ရောက်

သည့်နေ့မှ (၃၁-၁၂-၂၀၁၇) ရက်နေ့အထိဖြစ်ပါသည်ဟု ဖော်ပြမည့်အစား အဆိုပါအချိန်ကာလထက်လျော့နည်းသော သင့်တော်သည့်အချိန်ကာလ တစ်ခုအား သတ်မှတ်ဖော်ပြသင့်သည်ဟု သဘောရရှိပါသည်၊

(ခ) MOU (မူကြမ်း) အပိုဒ် ၆ မန္တလေးမြို့တော်စည်ပင်၏တာဝန်များ၌ မန္တလေးမြို့တော်စည်ပင်က တာဝန်ယူဆောင်ရွက်ပေးရမည့်ကိစ္စရပ်များ ကူညီပေးရမည့်ကိစ္စရပ်များ ဥပဒေနှင့်အညီ ကာကွယ်စောင့်ရှောက်ပေးရမည့် ကိစ္စရပ်များကိုဖော်ပြထားရာ မန္တလေးမြို့တော်စည်ပင်အနေဖြင့် သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်သင့်ပါသည်၊

(ဂ) MOU (မူကြမ်း) အပိုဒ် ၈ အငြင်းပွားမှုဖြေရှင်းခြင်း၌ အငြင်းပွားမှုအား နှစ်ဦးနှစ်ဖက်ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်ဖြစ်ကြောင်း၊ ထိုသို့ဖြေရှင်းမရပါ က ၁၉၄၄ ခုနှစ် မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေဖြင့် ဖြေရှင်းဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ MOU (မူကြမ်း) အဆင့်သာဖြစ်သောကြောင့် ၁၉၄၄ ခုနှစ် မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေဖြင့် ဖြေရှင်းဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားသည့် စည်းကမ်းချက်များအား မင်နီဖြင့် ပယ်ဖျက်ပေးလိုက်ပါသည်၊

(ဃ) MOU (မူကြမ်း) အပိုဒ် ၁၀ ၌ မလွန်ဆန်နိုင်သောဖြစ်ရပ်များနှင့်စပ်လျဉ်းသောစည်းကမ်းချက်များအား ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ MOU (မူကြမ်း) အဆင့်သာဖြစ်ပါသောကြောင့် မလွန်ဆန်နိုင်သောဖြစ်ရပ်များနှင့် စပ်လျဉ်းသော စည်းကမ်းချက်များအား ဖော်ပြရန်မလိုအပ်ဟု ယူဆပါသောကြောင့် မင်နီဖြင့် ပယ်ဖျက်ပေးလိုက်ပါသည်၊

(င) MOU (မူကြမ်း) အပိုဒ် ၁၃ လုပ်ငန်းဘောင်နှင့် လုပ်ဆောင်မှုဖြစ်စဉ်အပိုဒ်ခွဲ ၁၃-၀၁ ၌ဖော်ပြထားသောအချက်သည် မန္တလေးမြို့တော်စည်ပင်က ကူညီဆောင်ရွက်ပေးမည့်ကိစ္စရပ်အား ဖော်ပြထားခြင်းဖြစ်သောကြောင့် အဆိုပါ

အချက်အား MOU (မူကြမ်း) အပိုဒ် ၆ မန္တလေးမြို့တော်စည်ပင်၏ တာဝန်များအောက်သို့ ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(စ) MOU (မူကြမ်း)၌ ရေတံခွန်တောင်ဂေါက်ကွင်းအဆင့်မြှင့်တင်တည်ဆောက်ရေးကာလ၊ စီမံကိန်းလုပ်ငန်းစဉ်များနှင့် ရေတံခွန်တောင်ဂေါက်ကွင်း၏ မြေပုံမိတ္တူတို့အား ပူးတွဲထားသော်လည်း နောက်ဆက်တွဲ(က)(ခ)ဟူ၍ အမှတ်စဉ်တပ်၍ ဖော်ပြထားခြင်းမရှိသောကြောင့် အမှတ်စဉ်တပ်၍ ဖော်ပြရန် လိုအပ်ပါသည်၊

(ဆ) MOU (မူကြမ်း) အပိုဒ် ၅ ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်၏ တာဝန်များ၌ Environmental Impact Assessment (EIA) ၊ Social Impact Assessment (SIA) နှင့် Coperate Social Responsibilities (CSR ) တို့အား ဆောင်ရွက်မည့်ကိစ္စရပ်များကို ဖော်ပြထားခြင်းမရှိကြောင်း တွေ့ရှိရပါသည်။ သို့ပါ၍ ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်အနေဖြင့် အဆိုပါ EIA ၊ SIA ၊ CSR တို့အား MOU (မူကြမ်း)အား လက်မှတ်ရေးထိုးသည့်နေ့မှ သို့မဟုတ် စတင်အကျိုးသက်ရောက်သည့်နေ့မှ ရက်ပေါင်းမည်မျှအတွင်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ဆောင်ရွက်မည့် အချိန်ကာလမည်မျှဖြစ်ကြောင်းနှင့် ထိုသို့ဆောင်ရွက်ပြီးပါက မန္တလေးမြို့တော်စည်ပင်သို့ ရက်ပေါင်းမည်မျှအတွင်း တင်ပြရမည်ဖြစ်ကြောင်း စသည့်အချက်တို့အား ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဇ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၆။ ဤMOU(မူကြမ်း)ပါ စီမံကိန်းနှင့်စပ်လျဉ်း၍ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့ဥပဒေပုဒ်မ ၃၃ ၌ "တိုင်းဒေသကြီး သို့မဟုတ်ပြည်နယ်အစိုးရသည် ပြည်ထောင်စုအစိုးရကချမှတ်ထားသည့်မူဝါဒများနှင့်သော်လည်းကောင်း၊ပြည်ထောင်စုဥပဒေများနှင့်သော်လည်းကောင်း မဆန့်ကျင်စေဘဲ တိုင်းဒေသကြီးသို့မဟုတ်ပြည်နယ်အတွင်း အကောင်အထည်ဖော်ဆောင်ရွက်မည့်

လုပ်ငန်းများနှင့်စပ်လျဉ်းသည့် စီမံကိန်းများကို လွှတ်တော်၏သဘောတူညီချက်ဖြင့် အကောင်အထည်ဖော်ဆောင်ရွက်ရမည်" ဟု ပြဋ္ဌာန်းထားကြောင်း ဖော်ပြအပ်ပါသည်။

၇။ ဤMOU(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၈။ ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်သည် ဥပဒေနှင့်အညီ တရားဝင်ဖွဲ့စည်းထားသည့်ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ်စသည်တို့အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၉။ ဤMOU(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၀။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

(ကျော်ဆန်း)
ညွှန်ကြားရေးမှူးချုပ်

**မန္တလေးတိုင်းဒေသကြီးဥပဒေချုပ်ရုံး**

မိတ္တူ - မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
- ရုံးလက်ခံ / မျှောစာတွဲ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပြည်ထောင်စုရှေ့နေချုပ်ရုံး
# နေပြည်တော်

စာအမှတ်၊ ၂(၅)၄ - ၁၄ / နပတ (၁၁၃ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၄ ရက်

အကြောင်းအရာ။ **နိုင်ငံတကာအဆင့်မီရေတံခွန်တောင်ဂေါက်ကွင်း၊ Club House ၊ အပန်းဖြေဥယျာဉ်၊ စီးပွားရေးနှင့်လူနေအဆောက်အအုံများ တည်ဆောက်ရေးစီမံကိန်း သဘောတူစာချုပ်(မူကြမ်း) အပေါ် ဥပဒေအကြံပြုပေးပါရန်ကိစ္စ**

ရည်ညွှန်းချက်။ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ ၂၆-၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ၁၀၀၁/ ၇/ ပန်းကစား (၀၁၇၆)

၁။ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုမည့် နိုင်ငံတကာအဆင့်မီရေတံခွန်တောင်ဂေါက်ကွင်း၊ Club House ၊ အပန်းဖြေအားကစားဥယျာဉ်၊ စီးပွားရေးနှင့်လူနေအဆောက်အအုံများ တည်ဆောက်ရေးစီမံကိန်း သဘောတူစာချုပ်(မူကြမ်း)အပေါ် ဥပဒေအကြံပြုပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံပေးပို့လာသော ကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာ၌ ရေတံခွန်တောင်ဂေါက်ကွင်း အဆင့်မြှင့်တင်တိုးချဲ့တည်ဆောက်ခြင်းလုပ်ငန်းနှင့် ပတ်သက်၍ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်တို့သည် ၁၉-၈-၂၀၁၅ ရက်နေ့ MOU လက်မှတ်ရေးထိုးဆောင်ရွက်ခဲ့ပါသည်ဟု ဖော်ပြထားကြောင်း တွေ့ရှိရပြီး စာချုပ်(မူကြမ်း)နှင့်အတူ အဆိုပါ MOU(မိတ္တူ)အား ပူးတွဲပေးပို့လာပါသည်။

၃။ ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသော စာချုပ်(မူကြမ်း)အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုပြန်ကြားအပ်ပါသည် -

(က) စာချုပ်(မူကြမ်း) စာချုပ်ဝင်စာပိုဒ်အောက်၌ ယခုစာချုပ်(မူကြမ်း)ပါ ကိစ္စရပ်နှင့် စပ်လျဉ်း၍ ၁၉-၈-၂၀၁၅ ရက်နေ့တွင် ဌာနနှင့်ကုမ္ပဏီအကြား နားလည်မှု

စာချွန်လွှာလက်မှတ်ရေးထိုးချုပ်ဆိုခဲ့သည့်ဆိုသောအချက်အား ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၂ စာချုပ်၏ ရည်ရွယ်ချက်၊ အပိုဒ် ၂-၀၁ ၌ မြေ (၅၅၃) ကေအနက် (၃၀၂)ကေနှင့် (၂၈)ကေတွင် တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်း စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ကျန်(၂၃၀)ကေတွင် စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ရေးလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ ဆောင်ရွက်မည့်စနစ်ခြင်း မတူညီသောကြောင့် B.O.T စနစ်ဖြင့် ဆောင်ရွက်မည့်ကိစ္စရပ်များအတွက် စာချုပ်တစ်စောင်၊ စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်မည့်ကိစ္စရပ်အတွက် စာချုပ်တစ်စောင်၊ စာချုပ်နှစ်စောင်ခွဲ၍ သီးခြားစီ ချုပ်ဆိုသင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၃ အငှားချထားမည့်ပစ္စည်းနှင့် လွှဲပြောင်းပေးရမည့်ပစ္စည်း၊ အပိုဒ်ခွဲ ၃-၀၁ ၌ အငှားချထားမည့်ပစ္စည်းများနှင့်စပ်လျဉ်း၍ နောင်အငြင်းပွားမှုမဖြစ်စေရေးအတွက် စာရင်းပြုလုပ်၍ နောက်ဆက်တွဲများဖြင့် ဖော်ပြသင့်ပါသည်။ ထို့အတူ အပိုဒ်ခွဲ ၃-၀၂ ၌ လွှဲပြောင်းပေးမည့်ပစ္စည်းများနှင့် စပ်လျဉ်း၍ နောင်အငြင်းပွားမှုမဖြစ်စေရေးအတွက် စာရင်းပြုလုပ်၍ နောက်ဆက်တွဲများဖြင့် ဖော်ပြသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၃-၀၁ ၌ မန်းစည်ပင်မှ စီမံခန့်ခွဲပိုင်ခွင့်ရှိသော ---------- အငှားချထားပေးရမည်ဟု ဖော်ပြထားရာ မန်းစည်ပင်အနေဖြင့် မဖြစ်မနေအငှားချထားပေးရမည့်သဘောသက်ရောက်နေပါသည်။ အငှားချထားမည့်ပစ္စည်းများနှင့်စပ်လျဉ်း၍ အငှားချထားမည့်ပစ္စည်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်ဟု ဖော်ပြလျက် အငှားချထားမည့်မြေနှင့် အဆောက်အဦများ၏ တည်နေရာ၊ လိပ်စာ အပြည့်အစုံ၊ မြေဧရိယာအဆောက်အအုံများ၊ ပစ္စည်းများစသည်တို့အား

အပိုဒ်ခွဲငယ် (က)(ခ)စသည်ဖြင့် ဖော်ပြသင့်ပါသည်။ သို့မဟုတ် နောက်ဆက်တွဲဖြင့် ပူးတွဲဖော်ပြသင့်ပါသည်။ ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(င) ထို့အတူ စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၃-၀၂ ၌လည်း "---------- လွှဲပြောင်းပေးရမည်။" ဟုဖော်ပြထားရာ မဖြစ်မနေလွှဲပြောင်းပေးရမည့်သဘော သက်ရောက်နေပါသည်။ ယင်းသို့ဖော်ပြမည့်အစား လွှဲပြောင်းပေးရမည့်ပစ္စည်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်ဟု ဖော်ပြလျှက် လွှဲပြောင်းပေးမည့်မြေနှင့်အဆောက်အဦများ၏ တည်နေရာ၊ လိပ်စာအပြည့်အစုံ၊ မြေဧရိယာ၊ အဆောက်အအုံများအပါအဝင် လွှဲပြောင်းပေးမည့် ပစ္စည်းများ၏စာရင်းကို အပိုဒ်ခွဲငယ် (က)(ခ) စသည်ဖြင့် ဖော်ပြသင့်ပါသည်။ ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၄ ငှားရမ်းကာလနှင့် ငှားရမ်းကာလတိုးမြှင့်ခြင်း၊ အပိုဒ် ၄-၀၁ ၌ မြေ(၃၃၀)ကေခန့်ကို B.O.T စနစ်ဖြင့် ငှားရမ်းလုပ်ကိုင်မည့်ကာလနှင့် ငှားရမ်းကာလတိုးမြှင့်မည့်ကာလတို့အား ဖော်ပြထားပါသည်။ သို့သော် မြေ(၂၂၃)ကေနှင့်စပ်လျဉ်း၍ ငှားရမ်းမည့်ကာလနှင့် ငှားရမ်းကာလတိုးမြှင့်ခြင်းတို့အား ဖော်ပြထားခြင်းမရှိပါ။ စာချုပ်(မူကြမ်း) အပိုဒ် ၃-၀၂ ၌ မြေ(၂၂၃)ကေနှင့် ယင်းမြေပေါ်ရှိ ရွှေ့ပြောင်းနိုင်သောပစ္စည်း၊ မရွှေ့ပြောင်းနိုင်သောပစ္စည်းများအား စာချုပ်ဝင်နှစ်ဖက်သို့နှိုင်းသဘောတူညီမှုအရ လွှဲပြောင်းပေးရမည်ဟု ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။ သို့ပါ၍ မြေ(၂၂၃)ကေနှင့်စပ်လျဉ်း၍ မြေကို ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်ခြင်းဖြစ်ကြောင်း သို့မဟုတ် မန်းစည်ပင်နှင့် ကုမ္ပဏီတို့ အကျိုးတူပူးပေါင်းဆောင်ရွက်ပြီး အကျိုးအမြတ်အား မည်ကဲ့သို့ခွဲဝေမည်ဖြစ်ကြောင်း စသည်ဖြင့် မည်ကဲ့သို့ဆောင်ရွက်မည်ဆိုသော စည်းကမ်းချက်အား ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၅-၀၂ နှင့် ၅-၀၃ တို့တွင် ဖော်ပြထားသော USD, MMK နှင့် M&E တို့၏ စာသားအပြည့်အစုံကို ဖော်ပြသင့်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း) အပိုဒ် ၆ မြေငှားရမ်းအသုံးချမှုအတွက် ပရီမီယံကြေး၊ မြေငှားခနှင့်ဒဏ်ကြေးငွေပေးသွင်းခြင်း၊ အပိုဒ် ၆-၀၁ ၌ မြေ (၃၃၀)ကေအတွက် မြေငှားရမ်းခကျပ်သန်း (၁၀၀၀)ဟု ဖော်ပြထားပြီး တစ်ဖန်မြေငှားရမ်းခအဖြစ် နှစ်စဉ်ကျပ် (၆၅)သန်းကို ပေးသွင်းရန်ဖော်ပြထားပါသည်။ ထို့အပြင် အပိုဒ် ၆-၀၃ ၌လည်း မြေငှားရမ်းခကျပ်သန်း (၁၀၀၀)ဟုဖော်ပြထားရာ မြေငှားရမ်းခအား နှစ်မျိုးဖော်ပြထားသဖြင့် ရှင်းလင်းမှုမရှိပါ။ ငှားရမ်းခနှုန်းထားနှင့် စပ်လျဉ်း၍ တစ်ဧကလျှင် တစ်နှစ်လျှင်ငွေကျပ်မည်မျှနှုန်းဖြစ်ကြောင်း ရှင်းလင်းစွာ ဖော်ပြသင့်ပါသည်။ ထို့အပြင် ငှားရမ်းခသည် စာချုပ်(မူကြမ်း)ပါ ငှားရမ်းမည့်မြေဧက၊ ဆောင်ရွက်မည့်လုပ်ငန်းတို့နှင့် သင့်တော်သည့်ငှားရမ်းခဟုတ် မဟုတ်လည်း ပြန်လည်စိစစ်သင့်ပါသည်၊

(န) စာချုပ်(မူကြမ်း) အပိုဒ် ၆-၀၂ ၌ မြေ (၂၂၃)ကေအတွက် မြေအသုံးချမှုပရီမီယံကြေးအဖြစ် ကျပ်သန်း (၁၄၀၀၀)ပေးသွင်းရန် သဘောတူကြောင်း ဖော်ပြထားပြီး မြေငှားရမ်းခနှင့်စပ်လျဉ်း၍ တစ်စုံတစ်ရာဖော်ပြထားခြင်းမရှိပါ။ သို့ပါ၍ မြေ (၂၂၃)ကေနှင့်စပ်လျဉ်း၍ မြေကိုငှားရမ်းခြင်းဖြစ်ကြောင်း သို့မဟုတ် မည်သို့ဆောင်ရွက်ခြင်းဖြစ်ကြောင်း ရှင်းလင်းမှုမရှိပါ။ ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ပ) စာချုပ်(မူကြမ်း) အပိုဒ် ၆-၀၃ ၌ စုစုပေါင်းမြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ကို ၂၀၁၅ ခုနှစ် ဇူလိုင်လနှင့် ဩဂုတ်လတွင် ပေးသွင်းခဲ့ပြီး ကျန်ငွေကျပ်သန်း (၈၀၀၀)အား နှစ်ဖက်သဘောတူစာချုပ်အပြီးသတ်ချုပ်ဆိုပြီးနောက် ၂၀၁၅-၂၀၁၆ ဘဏ္ဍာရေးနှစ်အမီပေးသွင်းရမည်ဟု ဖော်ပြထားပါသည်။ အဆိုပါ သတ်မှတ်ကာလအတွင်း ပေးသွင်းခြင်းမရှိပါက ဒဏ်ကြေးမည်မျှပေးဆောင်ရမည် သို့မဟုတ် ဌာနအနေဖြင့် မည်ကဲ့သို့အရေးယူဆောင်ရွက်မည်ဆိုသော စည်းကမ်းချက်မပါရှိ၍ ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဠ) စာချုပ်(မူကြမ်း) အပိုဒ် ၆-၁၄ ၌ နှစ်စဉ်မြေငှားရမ်းခကျပ် (၆၅)သန်းကို ၂၀၁၅-၂၀၁၆ ဘဏ္ဍာရေးနှစ်မှစ၍ နှစ်စဉ်ဘဏ္ဍာရေးနှစ်အတွင်း အချိန်မီပေးသွင်းရမည်ဟုသာ ဖော်ပြထားပြီး မည်သည့်နေ့ရက်မှစ၍ မည်သည့်နေ့ရက်အတွင်း ပေးသွင်းရမည်ဖြစ်ကြောင်း အချိန်ကာလသတ်မှတ်ဖော်ပြမထား၍ ဖော်ပြရန် လိုအပ်ပါသည်၊

(ဥ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၆-၁၃ ၌ "---------- နှစ်ဦးနှစ်ဖက်သဘောတူစာချုပ် အပြီးသတ်ချုပ်ဆိုပြီးနောက် ---------" ဟုဖော်ပြထားရာ အပြီးသတ်စာချုပ်သည် မည်သည့်စာချုပ်ကိုဆိုလိုကြောင်း ရှင်းလင်းမှုမရှိပါ။ ဌာနက ပြန်လည်စိစစ်ပြီး ရှင်းလင်းစွာဖော်ပြသင့်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ် ၇ ဖွံ့ဖြိုးသစ်၏ တာဝန်ဝတ္တရားများ၊ အပိုဒ်ခွဲ ၇-၁၆ ၌ ကုမ္ပဏီအနေဖြင့် စီမံကိန်းလုပ်ငန်းများကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၅(ဂ)(ဃ)၊ ပုဒ်မ ၁၆(က)(ခ)(ဂ)(ဃ)(င)(စ)ပါ ပြဋ္ဌာန်းချက်နှင့်အညီ ရင်းနှီးမြှုပ်နှံလုပ်ကိုင်ဆောင်ရွက်နိုင်ကြောင်း ဖော်ပြထားပါသည်။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၅(ဃ)၊ ပုဒ်မ ၁၆(ဃ)၊ (င)၊ (စ)တို့ပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရာ၌ မန်းစည်ပင်၏ ခွင့်ပြုချက်လည်းရရှိရန်လိုအပ်သည်ဟု ဖော်ပြရန်သင့် မသင့် စဉ်းစားသင့်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း) အပိုဒ် ၈ မန်းစည်ပင်၏ တာဝန်များ၌ ဖော်ပြထားသောကိစ္စရပ်များကို မန်းစည်ပင်အနေဖြင့် ဆောင်ရွက်ပေးနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်။ ထို့ပြင် မန်းစည်ပင်ကဆောင်ရွက်ပေးရမည့်တာဝန်များတွင် အခြားဝန်ကြီးဌာနများနှင့် သက်ဆိုင်သောကိစ္စရပ်များပါဝင်နေသဖြင့် သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ညှိနှိုင်းဆောင်ရွက်သင့်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၈-၀၇ ၌ မန်းစည်ပင်သည် မြေ (၅၅၃)ဧကပေါ်ရှိ မြေနှင့်ယင်းမြေပေါ်ရှိ မရွှေ့မပြောင်းနိုင်သောပစ္စည်း၊ ရွှေ့ပြောင်းနိုင်သောပစ္စည်းနှင့်

အဆောက်အအုံများ၊ လုပ်ငန်းများနှင့် လုပ်ငန်းသုံးပစ္စည်းများကို ဖွံ့ဖြိုးသစ်သို့ အဖိုးစားနားမပါဘဲ လွှဲပြောင်းပေးအပ်ပြီးနောက် စီမံခန့်ခွဲခွင့်ပေးရမည်ဟု ဖော်ပြထားပါသည်။ မြေ (၅၅၃)ကေအနက် (၃၃၀)ကေအား B.O.T စနစ်ဖြင့် ဆောင်ရွက်ခြင်းဖြစ်ပြီး ကျန်(၂၂၃)ကေနှင့်စပ်လျဉ်း၍ ငှားရမ်းခရယူထားခြင်း မရှိသည့်အပြင် အကျိုးတူပူးပေါင်းဆောင်ရွက်ခြင်း သို့မဟုတ် မည်သို့ဆောင်ရွက်ခြင်းဖြစ်ကြောင်း တစ်စုံတစ်ရာဖော်ပြထားခြင်းမရှိသဖြင့် အဆိုပါဖော်ပြချက်အား ပြန်လည်စိစစ်သင့်ပါသည်၊

(တ) စာချုပ်(မူကြမ်း) အပိုဒ် ၉ စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့ ရက်နှင့် စာချုပ်သက်တမ်း၊ အပိုဒ် ၉-၁၁ ၌ နှစ်ဦးနှစ်ဖက်သဘောတူစာချုပ်လက်မှတ်ရေးထိုးပြီးနောက် အပိုဒ် ၁၅-၁၁ တွင် ဖော်ပြထားချက်နှင့်အညီ အကျိုးသက်ရောက်မှုရှိစေရမည်ဟု ဖော်ပြထားပါသည်။ အပိုဒ် ၁၅ ကြိုတင်စည်းကမ်းသတ်မှတ်ချက်၊ အပိုဒ်ခွဲ ၁၅-၁၁ ၌ သက်ဆိုင်ရာအစိုးရအာဏာပိုင်အဖွဲ့အစည်းများထံမှ စာချုပ်ကိုအကောင်အထည်ဖော်ဆောင်ရွက်ရန် လိုအပ်သော သဘောတူညီချက်နှင့် ခွင့်ပြုမိန့်များရရှိပြီးမှသာ အတည်ဖြစ်၍ အကျိုးသက်ရောက်စေရမည်ဟု စာချုပ်အကျိုးသက်ရောက်ခြင်းနှင့် ကြိုတင်စည်းကမ်းသတ်မှတ်ချက်တို့အား ရောထွေးစွာ ဖော်ပြထားပါသည်။ သို့ပါ၍ အပိုဒ် ၁၅-၁၁ တွင် ဖော်ပြချက်နှင့်အညီ အကျိုးသက်ရောက်စေလိုပါက 'ဤစာချုပ်သည် အပိုဒ် ၁၅-၁၁ ၌ ဖော်ပြထားသော သက်ဆိုင်ရာအစိုးရအာဏာပိုင်အဖွဲ့အစည်းများထံမှ လိုအပ်သော သဘောတူညီချက်နှင့် ခွင့်ပြုမိန့်များရရှိပြီးနောက် အသိသက်သေများရှေ့မှောက်တွင် နှစ်ဦးနှစ်ဖက်သဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်စေရမည်' ဟုဖော်ပြသင့်ပါသည်။ ဌာန၏လိုအပ်ချက်နှင့် ကိုက်ညီမှု ရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(ထ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၉-၀၂ ၌ စာချုပ်သက်တမ်းအား ဖော်ပြထားပါသည်။ စာချုပ်သက်တမ်းနှင့် စာချုပ်သက်တမ်းတိုးမြှင့်ခြင်းတို့သည် ငှားရမ်းကာလ၊ ငှားရမ်းကာလတိုးမြှင့်ခြင်းတို့နှင့် ကိုက်ညီမှုရှိရန် လိုအပ်သဖြင့် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း) အပိုဒ် ၁၅ ကြိုတင်စည်းကမ်းသတ်မှတ်ချက်၊ အပိုဒ်ခွဲ ၁၅-၀၁ ၌ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များနှင့် စာချုပ်အကျိုးသက်ရောက်မှုတို့အား ရောထွေးစွာဖော်ပြထားပါသည်။ သို့ပါ၍ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များနှင့်စပ်လျဥ်း၍ အလားတူစာချုပ်များတွင် ဖော်ပြလေ့ရှိသည့်အတိုင်း မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။ ဌာန၏လိုအပ်ချက်နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း) အပိုဒ် ၁၆ ၏ခေါင်းစဥ်အား မြေနှင့်နိုင်ငံတကာအဆင့်မီဂေါက်ကွင်း၊ Club House ၊ Amusement Park လုပ်ငန်းနှင့် အဆောက်အအုံများလွှဲပြောင်းပေးခြင်းဟု ဖော်ပြထားပါသည်။ သို့သော် အဆိုပါခေါင်းစဥ်အောက်ရှိ အပိုဒ် ၁၆-၀၁ ၌ အပိုဒ် ၃-၀၁ တွင် ဖော်ပြထားသော ငှားရမ်းမြေနှင့်တကွ ဂေါက်ကွင်းလုပ်ငန်း၊ လုပ်ငန်းသုံးပစ္စည်းများအားလုံးကို အဖိုးစားနားမပါဘဲ မန်းစည်ပင်သို့ လွှဲပြောင်းပေးရမည်ဟု ဖော်ပြထားရာ ခေါင်းစဥ်နှင့် စာပိုဒ်ဖော်ပြချက်တို့မှာ ကိုက်ညီမှုမရှိပါ။ B.O.T စနစ်၏သဘောသဘာဝသည် သက်ဆိုင်ရာဌာနမှ ငှားရမ်းသည့်မြေပေါ်တွင် အဆောက်အဦဆောက်လုပ်ခြင်း သို့မဟုတ် ငှားရမ်း သည့်အဆောက်အဦအား ပြင်ဆင်မွမ်းမံတည်ဆောက်ခြင်း၊ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်း၊ စာချုပ်သက်တမ်းကုန်ဆုံးချိန်တွင် သက်ဆိုင်ရာသို့ လွှဲပြောင်းပေးအပ်ခြင်းဖြစ်သောကြောင့် ငှားရမ်းလုပ်ကိုင်သူ ကုမ္ပဏီအနေဖြင့် တည်ဆောက်ထားသော အဆောက်အဦများအား စာချုပ်သက်တမ်းကုန်ဆုံးချိန်

၌သက်ဆိုင်ရာဌာနသို့ အဖိုးစားနားမပါဘဲ လွှဲပြောင်းပေးရမည်ဖြစ်ပါသည်။ သို့ပါ၍ အပိုဒ် ၁၆-၁၁ ပါ ဖော်ပြချက်အား ပြန်လည်စိစစ်သင့်ပါသည်၊

(န) စာချုပ်(မူကြမ်း) အပိုဒ် ၁၈ နစ်နာဆုံးရှုံးမှုများအတွက် တာဝန်ယူဖြေရှင်းခြင်း၊ အပိုဒ်ခွဲ ၁၈-၁၁ ၌ နစ်နာဆုံးရှုံးမှုများနှင့်စပ်လျဉ်း၍ မန်းစည်ပင်က တာဝန်ယူ ဖြေရှင်းပေးရမည်ဖြစ်ကြောင်း ဖော်ပြထားရာ ဌာနအနေဖြင့် သတိပြုသင့်ပါသည်၊

(ပ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၁၈-၁၁ ၌ "------- စာချုပ်သက်တမ်းမကုန်ဆုံးမီ အကြောင်းတစ်စုံတစ်ရာကြောင့် --------" ဟူ၍ ဖော်ပြထားရာ အကြောင်းတစ်စုံ တစ်ရာကြောင့်ဆိုသောစကားရပ်သည် မည်သည့်အကြောင်းကိစ္စကိုဆိုလို ကြောင်း ရှင်းလင်းမှုမရှိပါ။ အဆိုပါစကားရပ်နှင့် စပ်လျဉ်း၍ နောင်အငြင်းပွားမှု ပေါ်ပေါက်မှုမရှိစေရေးအတွက် ရှင်းလင်းစွာဖော်ပြရန် လိုအပ်ပါသည်။ ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ဖ) စာချုပ်(မူကြမ်း) အပိုဒ် ၂၄ အထွေထွေ၊ အပိုဒ် ၂၄-၁၂ ၌ ဤစာချုပ်သည် ဤအကြောင်းအရာအပေါ် ယခင်က အချင်းချင်းသဘောတူညီချက်များ၊ နားလည် မှုများအားလုံးကိုလည်း လွှမ်းမိုးသည်ဟု ဖော်ပြထားပါသည်။ ယခင်က အချင်းချင်း သဘောတူညီချက်များ၊ နားလည်မှုများအားလုံးဟုဆိုရာ၌ ၁၉-၈-၂၀၁၅ ရက်နေ့က ဌာနနှင့်ကုမ္ပဏီတို့အကြား ချုပ်ဆိုခဲ့သည့် နားလည်မှု စာချွန်လွှာပါဝင်ခြင်းရှိ မရှိ ရှင်းလင်းမှုမရှိပါ။ ၁၉-၈-၂၀၁၅ ရက်နေ့က ချုပ်ဆိုခဲ့သော နားလည်မှုစာချွန်လွှာအား ယခုစာချုပ်ဖြင့် လွှမ်းမိုးပါက အဆိုပါ အချက်အား ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်။ ဌာနက ပြန်လည်စိစစ်သင့် ပါသည်၊

(ဗ) စာချုပ်(မူကြမ်း)၌ မြေငှားစာချုပ်များ၊ B.O.T စာချုပ်များတွင် ဖော်ပြလေ့ရှိသော မြေသို့ပြန်လည်ဝင်ရောက်ခြင်း စည်းကမ်းချက်စာပိုဒ်မပါရှိ၍ ထည့်သွင်းဖော်ပြ ရန်လိုအပ်ပါသည်၊

(ဘ) စာချုပ်(မူကြမ်း)၌ B.O.T စာချုပ်များတွင် ဖော်ပြလေ့ရှိသော လုပ်ငန်းဆောင်ရွက်မှုအာမခံ (Performance Bank Guarantee) ရယူထားခြင်းမရှိ၍ ရယူရန် သင့် မသင့် ဌာနအနေဖြင့် စဉ်းစားသင့်ပါသည်၊

(မ) စာချုပ်(မူကြမ်း)၌ စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်မည့် မြေ (၂၂၃)ကေနှင့် စပ်လျဉ်း၍ အဆိုပါမြေနှင့်မြေပေါ်ရှိ ပစ္စည်းများအား နှစ်မည်မျှ ငှားရမ်းမည်ဖြစ်ကြောင်း သို့မဟုတ် စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်းအား ဌာနနှင့် ကုမ္ပဏီတို့အကြား အကျိုးတူပူးပေါင်းဆောင်ရွက်၍ မည်ကဲ့သို့ခွဲဝေမည်ဖြစ်ကြောင်း၊ သို့မဟုတ် မည်ကဲ့သို့သောစနစ်မျိုးဖြင့်ဆောင်ရွက်မည်ဖြစ်ကြောင်း တစ်စုံတစ်ရာဖော်ပြထားခြင်းမရှိပါ။ သို့ပါ၍ ဌာနမှ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်။ အဆိုပါမြေ (၂၂၃)ကေနှင့်စပ်လျဉ်း၍ သီးခြားစာချုပ်တစ်ရပ်ချုပ်ဆိုပါက ပိုမိုသင့်လျော်မည်ဖြစ်ပါသည်၊

(ယ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၄။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရအစိုးရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရှိသေးလျှင် တံဆိပ်ခေါင်းအက်ဥပဒေအရ ကျသင့်သောတံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၅။ စာချုပ်(မူကြမ်း)ပါ ဆောင်ရွက်မည့် လုပ်ငန်းများကိစ္စနှင့်စပ်လျဉ်း၍ ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၂၅၁ ၌ "တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရသည် ပြည်ထောင်စုအစိုးရက ချမှတ်ထားသည့် မူဝါဒများနှင့်သော်လည်းကောင်း၊ ပြည်ထောင်စုဥပဒေများ နှင့် သော်လည်းကောင်း၊ မဆန့်ကျင်စေဘဲ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်း အကောင် အထည်ဖော်ဆောင်ရွက်မည့် လုပ်ငန်းများနှင့် စပ်လျဉ်းသည့် စီမံကိန်းများကို သက်ဆိုင်ရာတိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်၏ သဘောတူညီချက်ဖြင့် အကောင်အထည်ဖော်ဆောင်ရွက်ရမည်" ဟုလည်းကောင်း၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အစိုးရအဖွဲ့ဥပဒေပုဒ်မ ၃၃ ၌ "တိုင်းဒေသ ကြီး သို့မဟုတ်

ပြည်နယ်အစိုးရသည် ပြည်ထောင်စုအစိုးရက ချမှတ်ထားသည့်မူဝါဒများနှင့်သော်လည်းကောင်း၊ ပြည်ထောင်စုဥပဒေ များနှင့်သော်လည်းကောင်း မဆန့်ကျင်စေဘဲ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အတွင်း အကောင်အထည်ဖော်ဆောင်ရွက်မည့် လုပ်ငန်းများနှင့်စပ်လျဉ်းသည့် စီမံကိန်းများကို လွှတ်တော်၏ သဘောတူညီချက်ဖြင့် အကောင်အထည်ဖော်ဆောင်ရွက်ရမည်” ဟုလည်းကောင်း ပြဋ္ဌာန်းထား သည်ကို သိရှိနိုင်ရန် ဖော်ပြအပ်ပါသည်။

၆။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၇။ ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်သည် တည်ဆဲဥပဒေအရ တရားဝင်ဖွဲ့စည်းထားသည့် ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၈။ ဤစာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ရန် မေတ္တာရပ်ခံအပ်ပါသည်။

၉။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

၅၊၂၊၂၀၁၆

( ကျော်ဆန်း)
ညွှန်ကြားရေးမှူးချုပ်(တာဝန်)

မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ



မန္တလေးတိုင်းဒေသကြီးအစိုးရ

မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ

မန္တလေးမြို့

စာအမှတ်၊ ၁၀၀၁ / ၇ / ပန်းကစား(၁၄၇၈)

ရက် စွဲ ၊ ၂၀၁၅ ခုနှစ် ၊ ဇွန်လ ၂၂ ရက်

သို့

အုပ်ချုပ်မှုဒါရိုက်တာ

ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်

အကြောင်းအရာ ။ ရေတံခွန်တောင်ဂေါက်ကွင်းအဆင့်မြှင့်တင်တည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုကြောင်း အကြောင်းကြားခြင်း

၁။ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ အကောင်အထည်ဖော်ဆောင်ရွက်မည့် ရေတံခွန်တောင်ဂေါက်ကွင်းအား အဆင့်မြှင့်တင်တည်ဆောက်ခြင်းလုပ်ငန်း၏ စီမံကိန်းလုပ်ငန်း အိတ်ဖွင့်တင်ဒါနှင့်ပတ်သက်၍ ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်အား စိစစ်ရွေးချယ်ပြီးဖြစ်ပါသဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုကြောင်း အကြောင်းကြားပါသည်။

၂။ သို့ပါ၍ စီမံကိန်းလုပ်ငန်းနှင့်ဆိုင်သော တစ်လုံးတစ်ခဲတည်းပေးသွင်းငွေ၏ (၅၀%)ကျပ်သန်း (၈,၀၀၀)(ကျပ်သန်းရှစ်ထောင်တိတိ)အား ပေးသွင်းသွားရန်ဖြစ်ကြောင်း အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ( ။ )

(ခင်မောင်တင်၊ အတွင်းရေးမှူး)



မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
အဆောက်အအုံနှင့်ကုန်ရုံဌာန
စာအမှတ်၊ ၅၇၆/ ၃-၅ အ (ထ-၁) /၂၀၁၆
ရက်စွဲ၊၂၀၁၆ခုနှစ်၊ဖေဖော်ဝါရီလ ၂၆ ရက်

သို့

ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်

အကြောင်းအရာ။ **ဖွံ့ဖြိုးသစ်ကုမ္ပဏီမှတင်ပြသည့် ရေတံခွန်တောင်စီမံကိန်းတည်ဆောက်ရေးလုပ်ငန်းများနှင့် ခန့်မှန်းတွက်ချက်မှုနှင့်ပတ်သက်၍ စိစစ်ပြန်ကြားခြင်း**

ဖွံ့ဖြိုးသစ်ကုမ္ပဏီမှ ရေတံခွန်တောင်စီမံကိန်းနှင့်ပတ်သက်၍ တည်ဆောက်မည့် ပူးတွဲပါ Master Plan ရှိ တည်ဆောက်ရေးလုပ်ငန်းများ၏ ဗိသုကာနှင့်အင်ဂျင်နီယာဒီဇိုင်းများနှင့် ယင်းလုပ်ငန်းများ၏ခန့်မှန်းတွက်ချက်မှုအား မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၊ အဆောက်အအုံနှင့်ကုန်ရုံဌာနမှသတ်မှတ်ထားသော ဆောက်လုပ်ရေးစံချိန်စံညွှန်းများနှင့်ကိုက်ညီကြောင်း စိစစ်တွေ့ရှိချက်အား သိရှိနိုင်ပါရန်နှင့် လိုအပ်သည်များဆောင်ရွက်နိုင်ရန် ပြန်ကြားပါသည်။

၂၆/၂

ဌာနမှူး
အဆောက်အအုံနှင့်ကုန်ရုံဌာန

မိတ္တူ

ရုံးလက်ခံ

Out 15 (173)



| No | Items | Maximum no of units | Estimated Cost/Unit | |
|---|---|---|---|---|
| | | | အမေရိကန်ဒေါ်လာ | မြန်မာကျပ်ငွေ |
| 1 | Golf Course | - | 14,520,833 | 17,425,000,000 |
| 2 | Club House | - | 2,323,068 | 2,787,681,082 |
| 3 | Amusement Park | - | 10,164,000 | 12,196,800,000 |

| No | Items | Maximum no of units | Estimated Cost/Unit | |
|---|---|---|---|---|
| | | | အမေရိကန်ဒေါ်လာ | မြန်မာကျပ်ငွေ |
| 1 | 3 Star Hotel | 184 | 7,380,080 | 8,856,095,535 |
| 2 | 5 Star Hotel | 234 | 13,858,439 | 16,630,127,341 |
| 3 | International Hospital | 300 | 14,425,141 | 17,310,168,953 |
| 4 | International School | 300 | 23,233,044 | 27,879,653,385 |
| 5 | Shopping Center | 1 | 26,724,283 | 32,069,140,123 |
| 6 | Shop House | 196 | 39,080,089 | 46,896,107,046 |
| 7 | Semi Detached | 80 | 12,779,169 | 15,335,002,835 |
| 8 | 1st Row Urban Residence | 88 | 13,336,880 | 16,004,255,415 |
| 9 | 2nd Row Urban Residence | 91 | 30,199,395 | 36,239,274,052 |
| 10 | Urban Residence Type 3 | 22 | 7,912,942 | 9,495,529,827 |
| 11 | Urban Residence Type 4 | 37 | 8,182,849 | 9,819,419,175 |
| 12 | Golf Course View Building | 56 | 20,730,954 | 24,877,144,232 |
| 13 | Luxury Hill Building | 115 | 51,167,716 | 61,401,258,645 |
| 14 | Apartments | 601 | 41,135,807 | 49,362,968,166 |
| 15 | 16-4 Unit 5 Story Building for Employees | 320 | 18,816,096 | 22,579,314,923 |
| 16 | Road and Landscaping | - | 13,940,000 | 16,728,000,000 |
| 17 | M & E | - | 107,163,308 | 128,595,969,600 |



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## ပြည်ထဲရေးဝန်ကြီးဌာန
## အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

စာအမှတ်၊ ၃၀၀/၁-၆/ဦး ၁( ၇၀၈၄ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၆ ရက်

သို့

အုပ်ချုပ်ရေးမှူး

မန္တလေးတိုင်းဒေသကြီးအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

မန္တလေးမြို့

အကြောင်းအရာ။ **စက်မှု / စီးပွားမြေငှားဂရန်အမိန့်ကြော်ငြာစာနှင့် အမှုတွဲပြန်လည်ပေးပို့ခြင်း**

ရည် ညွှန်း ချက်။ မန္တလေးတိုင်းဒေသကြီးအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ (၃၁-၁-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ၁ / ၂ - ၉ / ဦး ၁ (အထ၃) (၅၅၉)

မန္တလေးတိုင်းဒေသကြီး၊ မန္တလေးခရိုင်၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်ကျေးရွာအုပ်စုနှင့် အိုင်ကြီးကျေးရွာအုပ်စု၊ ကွင်း(၃)ကွင်းတို့မှ မြေဧရိယာ(၅၄၇.၈၀)ဧကအား **“နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်းနှင့် အပန်းဖြေမြေနေရာ”** အဖြစ် အသုံးပြုရန်အတွက် **မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ** အမည်ဖြင့် စက်မှု/ စီးပွား မြေငှားဂရန် လျှောက်ထားလာသည့် ကိစ္စနှင့်ပတ်သက်၍ ရည်ညွှန်းစာဖြင့် တင်ပြလာမှုအပေါ် ရေကြည်ကျေးရွာအုပ်စု၊ ကွင်းအမှတ် / အမည် - ၅၄၈ / ရေကြည်အရှေ့ကွင်း၊ ဦးပိုင်ပေါင်း (၉၉)ခုမှ မြေဧရိယာ(၃၀၀.၆၁)ဧကနှင့် အခြားမြေဧရိယာ(၇၂.၃၁)ဧက၊ **စုစုပေါင်း မြေဧရိယာ (၃၇၂.၉၂)ဧကအား** ပြည်ထဲရေးဝန်ကြီးဌာန၏၂၀၁၆ ခုနှစ်၊ မတ်လ ၁၆ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ်(၇၆၀ / ၂၀၁၆)ဖြင့် စက်မှု / စီးပွား မြေငှားဂရန်ထုတ်ပေးခွင့်ပြုပြီးဖြစ်၍ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် အမိန့်ကြော်ငြာစာနှင့် အမှုတွဲအား ပူးတွဲပေးပို့ပါသည်။

**ပူးတွဲ** - တင်ပြလာသည့်အမှုတွဲ(၁)တွဲ

ညွှန်ကြားရေးမှူးချုပ်( ကိုယ်စား )

(ကျော်သူရ၊ ဒုတိယညွှန်ကြားရေးမှူး)

မိတ္တူကို

မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ

အုပ်ချုပ်ရေးမှူး၊ မန္တလေးခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

လှည့်လည်စာတွဲ

ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထဲရေးဝန်ကြီးဌာန

အမိန့်ကြော်ငြာစာ ( ၇၆၀ / ၂၀၁၆ )

နေပြည်တော်၊ ၁၃၇၇ ခုနှစ်၊ တပေါင်းလဆန်း ၈ ရက်

( ၂၀၁၆ ခုနှစ်၊ မတ်လ ၁၆ ရက် )

**အမှတ်။** မန္တလေးတိုင်းဒေသကြီး၊ မန္တလေးခရိုင်၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်ကျေးရွာအုပ်စု၊ ကွင်းအမှတ် / အမည် - ၅၄၈ / ရေကြည်အရှေ့ကွင်း၊ ဦးပိုင်အမှတ် (၂၄$^{၂}$)၊ (၂၄$^{၃}$)၊ (၂၅$^{၂}$)၊ (၂၅$^{၃}$)၊ (၂၆)၊ (၂၇)၊ (၃၀$^{၁}$)၊ (၃၉$^{၁}$)၊ (၃၉$^{၂}$)၊ (၃၉$^{၃}$)၊ (၃၉$^{၄}$)၊ (၃၉$^{၅}$)၊ (၃၉$^{၆}$)၊ (၃၉$^{၇}$)၊ (၃၉$^{၈}$)၊ (၃၉$^{၉}$)၊ (၃၉$^{၁၀}$)၊ (၃၉$^{၁၁}$)၊ (၃၉$^{၁၂}$)၊ (၃၉$^{၁၃}$)၊ (၃၉$^{၁၄}$)၊ (၄၀)၊ (၄၁)၊ (၄၂)၊ (၄၃$^{၁}$)၊ (၄၃$^{၂}$)၊ (၄၃$^{၃}$)၊ (၄၄)၊ (၄၅)၊ (၄၆)၊ (၄၇)၊ (၄၈$^{၁}$)၊ (၄၈$^{၂}$)၊ (၄၉)၊ (၅၀)၊ (၅၁$^{၂}$)၊ (၅၂$^{၂}$)၊ (၅၅)၊ (၅၆)၊ (၅၇)၊ (၅၈)၊ (၅၉)၊ (၆၀)၊ (၆၃$^{၂}$)၊ (၆၄)၊ (၆၆)၊ (၆၇)၊ (၇၂)၊ (၇၃)၊ (၇၄)၊ (၇၅)၊ (၇၆)၊ (၇၇)၊ (၇၈)၊ (၇၉)၊ (၈၀$^{၁}$)၊ (၈၀$^{၂}$)၊ (၈၁)၊ (၈၂)၊ (၈၃$^{၁}$)၊ (၈၄)၊ (၈၅$^{၁}$)၊ (၈၅$^{၂}$)၊ (၈၆)၊ (၈၇$^{၁}$)၊ (၈၇$^{၂}$)၊ (၈၇$^{၃}$)၊ (၈၈)၊ (၈၉)၊ (၉၀$^{၁}$)၊ (၉၀$^{၂}$)၊ (၉၁)၊ (၉၂)၊ (၉၃)၊ (၉၄$^{၁}$)၊ (၉၄$^{၂}$)၊ (၉၅$^{၁}$)၊ (၉၅$^{၂}$)၊ (၉၆)၊ (၉၇)၊ (၉၈)၊ (၉၉$^{၁}$)၊ (၉၉$^{၂}$)၊ (၁၀၀)၊ (၁၀၁)၊ (၁၀၂)၊ (၁၀၃$^{၁}$)၊ (၁၀၃$^{၂}$)၊ (၁၀၄)၊ (၁၀၅$^{၁}$)၊ (၁၀၅$^{၂}$)၊ (၁၀၆)၊ (၁၀၇$^{၁}$)၊ (၁၀၇$^{၂}$)၊ (၁၀၈)၊ (N$^{၃}$)၊ (N$^{၄}$)၊ (N$^{၆}$)၊ (N$^{၇}$)၊ တို့မှ မြေဧရိယာ (၃၀၀.၆၁)ဧကနှင့် အခြားမြေဧရိယာ (၇၂.၃၁)ဧက၊ စုစုပေါင်းမြေဧရိယာ (၃၇၂.၉၂)ဧကအား **"နိုင်ငံတကာအဆင့်မီဂေါက်ကွင်းနှင့် အပန်းဖြေမြေနေရာ"** အဖြစ် အသုံးပြုရန်အတွက် တစ်နှစ်လျှင် မြေငှားရမ်းခ ကျပ် (၁၃၄,၂၅၁,၂၀၀/-) နှုန်းဖြင့် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ သို့ အထက်မြန်မာနိုင်ငံ မြေနှင့်အခွန်နည်းဥပဒေ ၅၁ (ခ) (ဂ)အရ နှစ် (၃၀) စက်မှု / စီးပွား မြေငှားဂရန် ထုတ်ပေးခွင့်ပြုသည်။

ဒုတိယဗိုလ်ချုပ်ကြီးကိုကို

ပြည်ထောင်စုဝန်ကြီး

စာအမှတ်၊ ပထရ / ၂ - ၃ ( ၇၆၀ ) / ထောက် ၂

ရက် စွဲ ၊ ၂၀၁၆ ခုနှစ် ၊ မတ် လ ၁၆ ရက်

**ဖြန့်ဝေခြင်း**

၁။ ဝန်ကြီးချုပ်၊ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊

၂။ ဥက္ကဋ္ဌ၊ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၊

၃။ ညွှန်ကြားရေးမှူးချုပ်၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ (အမှုတွဲနှင့်အတူ ပူးတွဲပေးပို့ပါသည်)

၄။ ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန၊

၅။ ညွှန်ကြားရေးမှူးချုပ်၊ ပုံနှိပ်ရေးနှင့်ထုတ်ဝေရေးဦးစီးဌာန၊
(ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ပြန်တမ်းတွင် ထည့်သွင်းကြေညာပေးပါရန်)

၆။ အုပ်ချုပ်ရေးမှူး၊ မန္တလေးတိုင်းဒေသကြီးအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊

၇။ တွဲဖက်အတွင်းရေးမှူး၊ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၊

၈။ ဦးစီးဌာနမှူး၊ မန္တလေးတိုင်းဒေသကြီးလယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန၊

၉။ အုပ်ချုပ်ရေးမှူး၊ မန္တလေးခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊

၁၀။ အုပ်ချုပ်ရေးမှူး၊ ပုသိမ်ကြီးမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊

၁၁။ ဦးစီးဌာနမှူး၊ ပုသိမ်ကြီးမြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန၊

၁၂။ လှည့်လည်စာတွဲ၊

၁၃။ ရုံးလက်ခံ။

အမိန့်အရ

(ပြုံးချို)
ခေတ္တအမြဲတမ်းအတွင်းဝန်

